Cabinet
1.10.98.

နောက်ဆက်တွဲ(၁)

သတ္တုတွင်းဝန်ကြီးဌာန
အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

သပိတ်ကျင်းမြို့နယ် (၅) မိုင်စခန်းရွှေလုပ်ကွက် ( **E-4** )အား
ရွှေသတ္တုထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်လုပ်ငန်း

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

အဆိုပြုတင်ပြချက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၂၆ – အဖွဲ့ခွဲ (၂) ၉၈(သပိတ်ကျင်း၊ ၅မိုင်)

နေ့စွဲ၊ ၁၉ ၉၈ ခု၊ အောက်တိုဘာ လ ၁ ရက်၊

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ သပိတ်ကျင်းမြို့နယ်၊ (၅) မိုင်စခန်း ရွှေလုပ်ကွက် ( E–4 ) အား ရွှေထုတ်လုပ်မှုအပေါ် ခွဲဝေခံစာချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စ။

၁။ အမှတ်(၂) သတ္တုတွင်းလုပ်ငန်းနှင့် ရွှေအောင်ရတနာကုမ္ပဏီလီမိတက်တို့၏ သပိတ်ကျင်းမြို့နယ်(၅) မိုင်စခန်း ရွှေလုပ်ကွက်( E–4 ) အား ရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစာချုပ်လုပ်ငန်းသဘောတူစာချုပ်၊ ချုပ်ဆိုဆောင်ရွက်ခွင့်ပြုရန်ကိစ္စကိုမြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခဲ့ရာ ၁၉၉၈ ခုနှစ်၊ စက်တင်ဘာ လ( ၂၉ ) ရက်နေ့တွင်ကျင်းပပြုလုပ်သည့်( ၁၇/၉၈ ) ကြိမ်မြောက်အစည်းအဝေးမှ သဘောတူခွင့်ပြုပြီးဖြစ်ပါသည်။
၂။ သို့ပါ၍၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ဆက်လက်တင်ပြနိုင်ရန်အတွက်အဆိုပြုလွှာ(၂၂) စုံကိုပြုစုတင်ပြအပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
( ဦးမြင့်သိန်း၊ ဒုတိယဝန်ကြီး )

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၂၆ - အဖွဲ့ခွဲ (၂) ၉၀ (သပိတ်ကျင်း - ၅ မိုင်)

သို့ ရက်စွဲ၊ ၁၉၉၀ ခု၊ စက်တင်ဘာ လ ၂၂ ရက်၊

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ၊ မန္တလေးတိုင်းသပိတ်ကျင်းမြို့နယ်(၅) မိုင်စခန်း ရွှေလုပ်ကွက် (E - 4) အားရွှေထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ။

၁။ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့်၊ ရွှေအောင်ရတနာကုမ္ပဏီလီမိတက်တို့၏ သပိတ်ကျင်းမြို့နယ်(၅) မိုင်စခန်း ရွှေလုပ်ကွက်(E - 4) အားရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်လုပ်ငန်းသဘောတူစာချုပ်ချုပ်ဆို ဆောင်ရွက်ခွင့်ပြုရန်ကိစ္စကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခဲ့ရာ ၁၉၉၀ ခုနှစ်၊ စက်တင်ဘာလ(၁၀)ရက် နေ့တွင် ကျင်းပပြုလုပ်သည့်( ၁၇/၉၀ ) ကြိမ်အကြိုအစည်းအဝေးမှ သဘောတူခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

၂။ သို့ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အကြိုအစည်းအဝေးမှဆုံးဖြတ်ထားသည့်အတိုင်း ကော်မရှင်သို့ဆက်လက်တင်ပြနိုင်ပါရန်အမှာစာ(၂၅) စုံကိုပြုစုတင်ပြအပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(ဦးမြင့်သိန်း၊ ဒုတိယဝန်ကြီး)

မိတ္တူကို -

၁။ ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၂။ ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၂၆-အဖွဲ့ခွဲ(၂)/၉၈(သပိတ်ကျင်း ၅မိုင်)/၉၈။
နေ့ စွဲ၊ ၁၉၉၈ ခုနှစ်၊ ဩဂုတ်လ ( ၇/ )ရက်။

သို့
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီမန္တလေးတိုင်း၊ သပိတ်ကျင်းမြို့နယ်(၅)မိုင်စခန်းရွှေလုပ်ကွက်(E - 4)အားရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်လျှောက်ထားခြင်း။

၁။ မန္တလေးတိုင်း၊ သပိတ်ကျင်းမြို့နယ်တွင်ဘုမိဗေဒဝေလေ့လာရေးနှင့်ဓါတ်သတ္တုရှာဖွေရေးဦးစီးဌာနနှင့်ပြည်ပသတ္တုရှာဖွေရေးကုမ္ပဏီ( East Aisa Gold Corp ) တို့စာချုပ်ချုပ်ဆို၍ရွှေနှင့်ကြေးနီရှာဖွေစမ်းသပ်တိုင်းတာရေးလုပ်ငန်းများဆောင်ရွက်ခဲ့ကြရာ စာချုပ်ပါစည်းကမ်းအတိုင်း စီးပွါးဖြစ်ထုတ်လုပ်နိုင်မှုမရှိဟုယူဆသောဧရိယာအချို့ကိုနိုင်ငံခြားကုမ္ပဏီမှပြန်လည်အပ်နှံခဲ့ကြပါသည်။ ထိုဧရိယာများတွင်ဒေသခံလုပ်သားများတရားမဝင် ဝင်ရောက်တူးဖေါ်ကြရာသပိတ်ကျင်းမြို့နယ်၊ ဝါးဖြူပေါင်ဒေသရှိ(၅)မိုင်စခန်းပတ်ဝန်းကျင်တွင်ရွှေအများအပြားထွက်ရှိကြောင်းကျော်ကြားသတင်းဖြစ်ပွါးလာပြီးနောက် သတ္တုတွင်းဝန်ကြီးဌာနသည်တရားမဝင်ရွှေတူးဖေါ်မှုများရပ်ဆိုင်းသွားစေရန်နှင့် နိုင်ငံတော်အကျိုးဖြစ်ထွန်းစေရန်လည်းကောင်း၊ တူးဖေါ်ခွင့်လျှောက်ထားသူများ မျှမျှတတတူးဖေါ်ခွင့်ရရှိစေရန်လည်းကောင်း၊ ရည်ရွယ်ချက်ထားရှိပြီး ထိုဒေသတွင်ရွှေတူးဖေါ်ထုတ်လုပ်ရေး (၈)ကွက်အား စနစ်တကျတိုင်းတာဖေါ်ထုတ်၍ သတင်းစာများမှ ဲ့ဟ်ဖိတ်တင်ဒါခေါ်ယူခဲ့ပါသည်။

၂။ အဆိုပါဖိတ်ခေါ်ပြိုင်ဘ်တင်ဒါ အောင်မြင်သူများအနက် ရွှေလုပ်ကွက်အမှတ်(E - 4)အားတင်ဒါအောင်မြင်သူ ( ရွှေအောင်ရတနာကုမ္ပဏီလီမိတက် )နှင့် အမှတ်(၂)သတ္တုတွင်းလုပ်ငန်းတို့သည်ရွှေထုတ်လုပ်မှုအပေါ် အကျိုးကျေခွဲဝေခံစားသည့်စနစ် ( Production Sharing Contract ) ဖြင့်ရွှေသတ္တုထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့်လိုအပ်သည့်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် ကမကထပြုသူ၏အဆိုပြုချက်အား နောက်ဆက်တွဲ(က)ဖြင့်တင်ပြအပ်ပါသည်။

၃။ သပိတ်ကျင်းမြို့နယ်(၅)မိုင်စခန်း၊ (E - 4) လုပ်ကွက်ရွှေသတ္တုထုတ်လုပ်မှုလုပ်ငန်းအတွက်ချုပ်ဆိုသည့်စာချုပ်ပါအဓိကအချက်များအား အောက်ပါအတိုင်းကောက်နုတ်တင်ပြအပ်ပါသည်။

| | | |
|---|---|---|
| (က) | စာချုပ်လက်မှတ်ဆုငွေ ( Signature Bonous ) | ၈၀၀၆၀၀၀ ကျပ် |
| (ခ) | ဘဏ်အာမခံငွေ ( Performance Guarantee ) | ၁၀၀၀၀၀၀ ကျပ် |
| (ဂ) | မတည်ရင်းနှီးငွေ (၁)ငွေသားဖြင့် | ၄၀၀၆၀၀၀ ကျပ် |
| | (၂)ပုံသေပိုင်ပစ္စည်း | ၅၉၉၄၀၀၀ ကျပ် |
| (ဃ) | အကျိုးအမြတ်ခွဲဝေခြင်း | -ထုတ်လုပ်မှုအပေါ် အကျိုးကျေခွဲဝေခံစားခြင်း |

ဓါတ်သတ္တုဌာန + သတလ(၂) = စုစုပေါင်း : ကန်ထရိုက်တာ
၅% + ၃၀% = ၃၅% : ၆၅%

(င) ထုတ်လုပ်မှု - တစ်နှစ်လျှင်(၁၄ပဲရည်)နှင့်အထက်ရွှေသတ္တုစင်(၅၀၀)ထရိုင်အောင်စ ထုတ်လုပ်ရန်ဖြစ်ပါသည်။

(စ) ပုံသေမြေငှားရမ်းခ - ဖက်စပ်ကုမ္ပဏီအနေဖြင့်သတ္တုတွင်းနည်းဥပဒေအရ(၁)စတုရန်းကီလိုမီတာလျှင်ကျပ်(၆၀၀၀/-)နှုန်းနှစ်စဉ်ပေးသွင်းရမည်။

၄။ စာချုပ်အရရွှေသတ္တုတူးဖေါ်လုပ်ကိုင်ခွင့်ရှိသောဧရိယာသည်အမှတ်(၂)သတ္တုတွင်းလုပ်ငန်းမှတိုင်းတာသတ်မှတ်ထားသောသစ်တောမရှိသည့်ဧရိယာဖြစ်ပြီး အကျယ်အဝန်း(၀.၁၈၁)စတုရန်းကီလိုမီတာ ရှိသောမှုတ်စာချုပ်ပါမြေပုံဧရိယာအတိုင်းဖြစ်ပါသည်။ သတ်မှတ်ထားသည့်ဧရိယာအတွင်းရွှေတူးဖေါ်ထုတ်လုပ်ရေးလုပ်ကိုင်ဆောင်ရွက်ရန်အတွက် သစ်တောဧရိယာကင်းလွတ်မှုရှိကြောင်း၊ သဗိတ်ကျင်းမြို့နယ်သစ်တောဦးစီးဌာန၏ထောက်ခံချက်ဖြင့် သစ်တောရေးရာဝန်ကြီးဌာနသို့ဆက်လက်တင်ပြပြီးဖြစ်ပါသည်။ ရွှေသတ္တုတူးဖေါ်သည့်ကာလအတွင်း သစ်ပင်များ မခုတ်လှဲရေးကို စာချုပ်ပါစည်းကမ်းချက်များအတိုင်း ဂရုပြုဆောင်ရွက်စေမည်ဖြစ်ပါသည်။

၅။ သဗိတ်ကျင်းမြို့နယ်(၅)မိုင်စခန်းရွှေလုပ်ကွက်(E - 4)အားထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်လုပ်ငန်းသဘောအရ စာချုပ်မူကြမ်းကိုရှေ့နေချုပ်ရုံးမှ ဥပဒေရှုဒေါင့်အရ စိစစ်ပြီးဖြစ်ပါ၍ ရှေ့နေချုပ်ရုံးမှသဘောထားမှတ်ချက်ကိုနောက်ဆက်တွဲ (ခ)ဖြင့်ပြင်ဆင်ပြီး စာချုပ်မူကြမ်းအား နောက်ဆက်တွဲ (ဂ)၊ ကုမ္ပဏီ၏မှတ်ပုံတင်လက်မှတ်အားနောက်ဆက်တွဲ (ဃ)၊ ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းအား နောက်ဆက်တွဲ (င)နှင့် သစ်တောကင်းရှင်းကြောင်းအား နောက်ဆက်တွဲ (စ) ဖြင့်အသီးသီးတင်ပြအပ်ပါသည်။

၆။ (E - 4)လုပ်ကွက်အား ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့် စနစ်ဖြင့်ဆောင်ရွက်မည်ဖြစ်ပါ၍ ထုတ်လုပ်ရေးလုပ်ငန်းများအားကန်ထရိုက်တာကုမ္ပဏီဖြစ်သည့် (ရွှေအောင်ရတနာကုမ္ပဏီလီမိတက်) ၏ကုန်ကျစရိတ်ဖြင့်ဆောင်ရွက်ရန်ဖြစ်ပြီး လုပ်ငန်းအောင်မြင်မှုအတွက်ကန်ထရိုက်တာမှအားလုံးစွန့်စားရမည်ဖြစ်ပါ၍ ကုမ္ပဏီအားအခွန်အခများကင်းလွတ်ခွင့်၊ သက်သာခွင့်ပြုရန်လိုအပ်ပါသည်။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၁၂)နှင့်(၁၃)တို့အရ ကုမ္ပဏီအားအောက်ဖေါ်ပြပါအခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအားခံစားခွင့်ပြုပါရန်လျှောက်ထားတင်ပြအပ်ပါသည်။

(က) လုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပြုပါရန်၊
(ခ) ထုတ်လုပ်ရရှိသည့်ရွှေသတ္တုများအနက် ကန်ထရိုက်တာမှရရှိသည့်အချိုးကျရွှေများကိုပြည်ပသို့ရောင်းချခြင်းအတွက်ရရှိသည့်အမြတ်ငွေပေါ်တွင် (၅၀%)အထိ (၅)နှစ်အတွက်ဝင်ငွေခွန်သက်သာခွင့်ပြုပါရန်၊
(ဂ) သတ်မှတ်လျာထားသည့်တစ်နှစ်လျှင်(၅၀၀)ထရိုင်အောင်စထက်ပိုမိုထုတ်လုပ်နိုင်ပါက (၅)နှစ်ကာလနောက်ပိုင်းတွင် အမြတ်ငွေပေါ်၌ (၅၀%)အထိဝင်ငွေခွန်သက်သာခွင့်ဆက်လက်ခွင့်ပြုပါရန်၊
(ဃ) နည်းပညာရပ်များကိုအသုံးပြုပြီး အဆင့်မြင့်နည်းပညာများဖွံ့ဖြိုးတိုးတက်စေရန်ဆောင်ရွက်သောစီးပွားရေးလုပ်ငန်းဖြစ်ပါက ဝင်ငွေခွန်သက်သာခွင့်ကိုသတ်မှတ်ချက်နှင့်အညီ သင့်လျော်သောကာလအထိ ခံစားခွင့်ပြုပါရန်၊
(င) စီးပွားရေးလုပ်ငန်းမှရရှိသည့်အမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန် သီးသန့်ရံပုံငွေထား၍ တစ်နှစ်အတွင်း၊ ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင်ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်ပြုပါရန်၊
(စ) သတ်မှတ်ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌မရနိုင်သည့်အမှန်တကယ်အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသောစက်အရံပစ္စည်း၊ စက်ကရိယာ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးဖြစ်စေကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်ပြုပါရန်၊

(ဆ) ကနဦးရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ရွှေသတ္တုထုတ်လုပ်ရန် ကော်မရှင်က တင်သွင်းခွင့်ပြုသည့်ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်ဖြစ်စေ၊ နှစ်မျိုးစလုံးဖြစ်စေကင်းလွတ်ခွင့်ပြုပါရန်၊

(ဇ) လုပ်ငန်းလိုအပ်ချက်အရငှားရမ်းအသုံးပြုမည့် နိုင်ငံခြားမှကျွမ်းကျင်ပညာရှင်များ၏ ဝင်ငွေအပေါ်တွင် ပြည်တွင်းနေနိုင်ငံသားများ ပေးဆောင်ရသည့်ဝင်ငွေခွန်နှုန်းထားများအတိုင်း ဝင်ငွေခွန်ပေးဆောင်ခွင့်ပြုပါရန်။

၇။ ထုတ်လုပ်မှုလုပ်ငန်းစတင်ချိန်မှစ၍ ပထမနှစ်တွင်(၁၄ပဲရည်)အဆင့်ရှိရွှေသတ္တုအနည်းဆုံး (၄၅၀)ကျပ်ချိန်အောင်စ ထုတ်လုပ်ပြီး ကျန်သည့်နှစ်များတွင်ရွှေသတ္တု (၅၀၀)ကျပ်ချိန်အောင်စထုတ်လုပ်မည်ဖြစ်ပါ၍၊ ယင်းသို့ထုတ်လုပ်ခြင်းဖြင့် အောက်ဖော်ပြပါစီးပွါးရေးတွက်ချေကိုက်မှုများရရှိမည်ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) | ဓါတ်သတ္တုခွန် ၅% | ၉၆၆၂၉၀၀ ကျပ် |
| (ခ) | (၅)နှစ်အတွက်ဝင်ငွေခွန်ရရှိမှု | ၂၀၁၂၆၀၀ ကျပ် |
| (ဂ) | အမှတ်(၂)သတ္တုတွင်းလုပ်ငန်းမှရငွေ | ၅၇၉၇၇၁၀၀ ကျပ် |
| (ဃ) | ကန်ထရိုက်တာမှရငွေ | ၁၂၅၆၁၆၉၀၀ ကျပ် |
| (င) | မြေငှားရမ်းခ( Dead Rent ) | ၃၀၀၀၀ ကျပ် |
| (စ) | လစာငွေ | ၅၂၂၀၀၀၀ ကျပ် |

၈။ သို့ပါ၍အထက်ဖော်ပြချက်အပေါ် ကော်မရှင်အနေဖြင့်ခွင့်ပြုမိန့်ချမှတ်ပေးပါရန် တင်ပြအပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
သတ္တုတွင်းဝန်ကြီးဌာန
( ဦးမြင့်သိန်း၊ ဒုတိယဝန်ကြီး )

မိတ္တူကို-

၁။ ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၂။ ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

ပြည်ထောင်စု မြန်မာနိုင်ငံတော်
မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ
ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍
ကတိခံဝန်ချက်

၁။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူတစ်ဦးတစ်ယောက်မျှပိုင်ဆိုင်မှု မရှိကြောင်း ဝန်ခံကတိပြုပါသည်။

၂။ လုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေးအစီအမံများကို စနစ်တကျထားရှိ ဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၃။ လုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်မှ သတ်မှတ်ပြဌာန်းသည့်စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လက်မှတ် ၊ Tin Win    ကုမ္ပဏီအမည် ၊ ရွှေအောင်ရတနာကုမ္ပဏီလီမိတက်

အမည် ၊ ဦးတင်ဝင်း    လိပ်စာ ၊ အမှတ်-၃၀(အေ)၊ အခန်း-၁၊
ယောမင်းကြီးလမ်း၊ ဒဂုံမြို့နယ်၊
ရန်ကုန်မြို့။

ရာထူး ၊ မန်နေးဂျင်းဒါရိုက်တာ    နေ့စွဲ ၊ ၁၈ - ၉ - ၉၈။

နောက်ဆက်တွဲ( ဂ )



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မန ၁၁-၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

[ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

စာအမှတ်၊ /ဖက်စပ်–ရွှေ(သပိတ်ကျင်း-၅မိုင်)

ရက်စွဲ၊ ၁၉၉၀ ခုနှစ်၊ ဩဂုတ်လ(   )ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့် ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏

(က) အမည် ဦး တင်စိုင်း

(ခ) အဘအမည် ဦး ဇိန်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် မြန်မာ၊ ဓေဘီး – ၂၂၇၈၁၂

(ဃ) နေရပ်လိပ်စာ ၆၃၊ အင်းယားမြိုင်လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) လူမျိုး၊ ဘာသာ မြန်မာ၊ ဗုဒ္ဓဘာသာ

(စ) အဖွဲ့အစည်းအမည် အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

(ဆ) လုပ်ငန်းအမျိုးအစား ရွှေအဖြူ ထုတ်လုပ်ခြင်း

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် သတ္တုတွင်းဝန်ကြီးဌာန၊ ရှေ့ပေါင်းရုံး
အမှတ်(၉၀)ကံဘဲ့လမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သော အချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား ရွှေသတ္တု ထုတ်လုပ်ခြင်း

(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှု စသည်ဖြင့် ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ ..............................

..............................

(ဂ) ဆောင်ရွက်ပုံနည်းစနစ် စာချုပ်ချုပ်ဆိုမှု သတ်မှတ်သော ဧရိယာအတွင်း ရွှေသတ္တုတူးဖေါ် ထုတ်လုပ်၍ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း နှင့် အကျိုးအမြတ်ခွဲဝေခြင်း

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်-

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | (၂၄၀၀၀) ဂါလံ |
| ၂။ | စက်ဆီ/ ချောဆီ | (၅၀၀) ဂါလံ |
| ၃။ | .............................. | .............................. |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက် -

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | ............ |
| ၂။ | ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ............ |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | ............ |
| ၄။ | သဘာဝဓာတ်ငွေ့သုံးစက်အား | ............ |
| ၅။ | ပေးပို့သည့်အခြားအား (ရေအား/လေအား စသည်များ) | ............ |

(စ) နှစ်စဉ် ရေလိုအပ်ချက် (၅၀၀၀၀၀) ဂါလံ

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်)

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသော အချက်အလက်များ-

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | (နောက်ဆက်တွဲဇယား ၁ - က - ၇) | |
| (ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ | ........ | ........ |
| (ဂ) ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ | ........ | ........ |
| (ဃ) ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | ........ | ........ |
| (င) နှစ်စဉ် ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | (နောက်ဆက်တွဲဇယား ၁ - ၆) | |

၁၁။ ဆောင်ရွက်မည့် စီး[illegible]ရေးလုပ်ငန်း[illegible] လိုအပ်မည့်အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ-

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| အုပ်ချုပ်သူ | ၃ |
| အမှုထမ်း | ၃ |
| ကျွမ်းကျင်/မကျွမ်းကျင်လုပ်သား | ၂၆ |
| ........ | ........ |
| ........ | ........ |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြု တင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း / ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိ အခြေအနေနှင့်ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ်၊ ..........

အမည်၊ ဦး တင်ဝင်း

ရာထူး၊ ဦး ဆောင်ညွှန်ကြားရေးမှူး

(လျှောက်ထားသူ)

PROPOSAL FROM (1) RE-ITEM 8 A (2)
Shwe Aung Yadana Co;Ltd
VALUE OF BUILDING

Exhibition(T)

| Sr No. | Description | No of Building | Dimension | Total Cost in Kyats |
|---|---|---|---|---|
| A | ဆောက်လုပ်မည့်အဆောက်အဦများ(ယာယီ) | | | |
| 1. | Office and Store. | 1. | 25'x50' | 400000.00 |
| 2. | Staff Quarter. | 2. | 15'x30' | 198000.00 |
| 3. | Labour Quarter. | 2. | 15'x60' | 396000.00 |
| | စုစုပေါင်း: | | | 994000 |

| PROPOSAL FORM (1)- ITEM 8A (3)<br>Shwe Aung Yadana Co;Ltd<br>List of Machineries and Equipment Etc.<br>Exihibition No (II-). | | | | |
|---|---|---|---|---|
| Sr No | PARTICULARS | QTY | UNITE PRICE IN KYAT | VALUE IN KYAT |
| 1. | Dump Truck(4x4) 2-4 Tons | 2- Nos | 2000000.00 | 2000000.00 |
| 2. | Crusher | 1-Nos | 500000.00 | 500000.00 |
| 3. | Backhole 1.5 Cuft | 1-Nos | 2000000.00 | 2000000.00 |
| 4. | Compressor & Drill Accessories | 1-Nos | 500000.00 | 500000.00 |
| | Total | | | 5000000.00 |

PROPOSAL FROM (1) RE-ITEM 9(g)

Shwe Aung Yadana Co;Ltd

Annual Raw Materials Requirement

Exhibition(III)

| | Particulars | Unit | Year 1 | 2 | 3 | 4 | 5 |
|---|---|---|---|---|---|---|---|
| Purchase Raw Materials (Qty) | | | 100% | 100% | 100% | 100% | 100% |
| Local Purchase (Qty) | | | | | | | |
| 1. | Fuel and Power | | | | | | |
| 1-1 | Diesel | gl | 24000 | 2400 | 25200 | 26400 | 26400 |
| 1-2 | Hydraulic&Engin Oil | gl | 500 | 500 | 500 | 500 | 500 |
| 2 | Explosive | | | | | | |
| 2-1 | Gelitnite | Kg | 1600 | 1600 | 1600 | 1600 | 1600 |
| 2-2 | Detonator | Nos | 12000 | 12000 | 12000 | 12000 | 12000 |
| 2-3 | Cordtex | Met: | 6000 | 6000 | 6000 | 6000 | 6000 |
| 2-4 | Safety Fuse | Met: | 1200 | 1200 | 1200 | 1200 | 1200 |
| 2-5 | Ammonia Nitrate | Kg. | 6000 | 6000 | 6000 | 6000 | 6000 |
| 3 | Reagent | | | | | | |
| 3-1 | Sodium Cyanide | Drum | 300 | 300 | 300 | 300 | 300 |
| 3-2 | Carbon | Bag | 75 | 75 | 75 | 75 | 75 |
| | Purchase Raw Meterials(Prise) | | | | | | |
| 1. | Fuel and Power | | | | | | |
| 1-1 | Diesel | K/gl | 160 | 168 | 176 | 185 | 195 |
| 1-2 | Engine Oil&Lubricant | gl | 2000 | 2200 | 2200 | 2500 | 2500 |
| 2. | Explosive | | | | | | |
| 2-1 | Gelignite | Kg | 240 | 252 | 264.60 | 277.83 | 291.72 |
| 2-2 | Detonator | Nos | 1 | 1.05 | 1.10 | 1.15 | 1.21 |
| 2-3 | Cordtex | Met: | 40 | 42 | 44.10 | 46.30 | 48.62 |
| 2-4 | Safety Fuse | Met: | 25 | 26.25 | 27.56 | 28.94 | 30.39 |
| 2-5 | Ammonia Nitrate | Kg | 2 | 2.10 | 2.20 | 2.31 | 2.43 |
| 3 | Reagent | | | | | | |
| 3-1 | Sodium Cyanide | Drum | 12300 | 12915 | 13560.75 | 14238.79 | 14950.73 |
| 3-2 | Carbon | Bag | 25000 | 26250 | 27562.50 | 28940.63 | 30387.66 |

PROPOSAL FORM (1) RE-ITEM 9 (g)
Shwe Aung Yadana Co.LTD
Annual Raw Materials Requirement.

Exhibition(IV )

| Particular | | Unit | Year | | | | |
|---|---|---|---|---|---|---|---|
| | | | 1 | 2 | 3 | 4 | 5 |
| Purchase Raw Materials (Value) | | | | | | | |
| 1 | Fuel and Power | | | | | | |
| 1-1 | Diesel | k.000 | 3840.0 | 4032.0 | 4435.2 | 4884.0 | 5148.0 |
| 1-2 | Engin Oil & Lubricant | k.000 | 1000.0 | 1100.0 | 1250.0 | 1250.0 | 1250.0 |
| 2 | Explosive | | | | | | |
| 2-1 | Gelignite | k.000 | 384.0 | 403.2 | 423.4 | 444.5 | 466.8 |
| 2-2 | Detonator | k.000 | 12.0 | 12.6 | 13.2 | 13.8 | 14.6 |
| 2-3 | Cordtex | k.000 | 240.0 | 252.0 | 264.6 | 277.8 | 291.8 |
| 2-4 | Safety Fuse | k.000 | 30.0 | 31.6 | 33.0 | 34.8 | 36.4 |
| 2-5 | Ammonia Nitrate | k.000 | 12.0 | 12.6 | 13.2 | 13.8 | 14.6 |
| 3 | Reagent | | | | | | |
| 3-1 | Sodium Cyanide | k.000 | 3690.0 | 3874.5 | 4068.2 | 4271.6 | 4485.2 |
| 3-2 | Carbon | k.000 | 1875.0 | 1968.8 | 2073.9 | 2170.5 | 2279.1 |
| | Total Local Purchase | | 11083.0 | 11687.3 | 12424.7 | 13360.8 | 13986.5 |

PROPOSAL FORM (1) RE-ITEM 9(j)
Shwe Aung Yadana Co;Ltd
GOODS TO BE PRODUCED

1.0 Products | Exhibition(V)

| Particulars | Unit | Year | | | | |
|---|---|---|---|---|---|---|
| | | 1 | 2 | 3 | 4 | 5 |
| Production Goods<br>Gold | T-oz | 450 | 450 | 500 | 500 | 500 |
| Royalty 5%<br>Gold | T-oz | 22.5 | 22.5 | 25 | 25 | 25 |
| Balance for Production sharing | T-oz | 427.5 | 427.5 | 475 | 475 | 475 |
| For No (2) Mining Enterprise (30%) | T-oz | 135 | 135 | 150 | 150 | 150 |
| For Shwe Aung Yadana Co;Ltd (65%) | T-oz | 292.5 | 292.5 | 325 | 325 | 325 |
| Local Sale Quantity (100%)<br>Gold | T-oz | 292.5 | 292.5 | 325 | 325 | 325 |
| Local selling price<br>Gold | K/T-oz | 76190 | 77714 | 80000 | 84000 | 84000 |
| Local Sale Income<br>Gold | K000 | 22285.6 | 22731.3 | 26000.0 | 27300.0 | 27300.0 |
| Total Local Sale | | 22285.6 | 22731.3 | 26000.0 | 27300.0 | 27300.0 |

PROPOSAL FORM (1) RE.ITEM 10(c)
Shwe Aung Yadana Co.LTD
Production and Revenue Statement

Exhibition(VI)
(Kyats in Thousand)

| Sr No | Year | Total Production | Royalty 5% | | ME(2) 30% | | Company Share 65% | | Remarks |
|---|---|---|---|---|---|---|---|---|---|
| | | | Qty-T.oz | Value | Qty-T.oz | Value | Qty-T.oz | Value | |
| 1 | 1 | 450.T.oz | 22.5 | 1714.3 | 135.0 | 10285.7 | 292.5 | 22285.6 | |
| 2 | 2 | 450.T.oz | 22.5 | 1748.6 | 135.0 | 10491.4 | 292.5 | 22737.3 | |
| 3 | 3 | 500.T.oz | 25.0 | 2000.0 | 150.0 | 12000.0 | 325.0 | 26000.0 | |
| 4 | 4 | 500.T.oz | 25.0 | 2100.0 | 150.0 | 12600.0 | 325.0 | 27300.0 | |
| 5 | 5 | 500.T.oz | 25.0 | 2100.0 | 150.0 | 12600.0 | 325.0 | 27300.0 | |
| | Total | 2400 | 120.0 | 9662.9 | 720.0 | 57977.1 | 1560.0 | 125616.9 | |

PROPOSAL FORM (1) RE- ITEM 10(a)

Shwe Aung Yadana Co:Ltd

Amount of Working Capital and Cash Flow Statement

Exhibitions( VII)

(Kyats in Thousand)

| Sr No | | Particular | Year 1 | Year 2 | Year 3 | Year 4 | Year 5 |
|---|---|---|---|---|---|---|---|
| 1 | | 2 | 3 | 4 | 5 | 6 | 7 |
| 1 | | CASH IN FLOW | | | | | |
| | 1 | Equity Capital | 10000.0 | | | | |
| | 2 | Profit After Tax | 1972.9 | 1722.2 | 3280.6 | 2501.2 | 2194.7 |
| | 3 | Depreciation | 748.8 | 748.8 | 748.8 | 748.8 | 748.8 |
| | | | 12721.7 | 2471 | 4029.4 | 3250 | 2943.5 |
| 2 | | CASH OUT FLOW | | | | | |
| | 1 | Building | 994.0 | | | | |
| | 2 | Machinery | 5000.0 | | | | |
| | | | 5994.0 | 0 | 0 | 0 | 0 |
| 3 | | Net Cash Flow | 6727.7 | 2471.0 | 4029.4 | 3250.0 | 2943.5 |
| 4 | | Opening Balance | - | 6727.2 | 9198.2 | 13227.6 | 16477.6 |
| 5 | | Closing Balance | 6727.7 | 9198.2 | 13227.6 | 16477.6 | 19421.1 |

PROPOSAL FORM (1) RE-ITEM 11 (a)

Shwe Aung Yadana Co;Ltd

LIST OF PERSONAL REQUIREMENT

Exhibition(VIII)

| Sr No. | Description | No of Requirement. |
|---|---|---|
| (A) | LOCAL PERSONNEL | |
| 1. | Production Manager | 1 |
| 2. | Marketing Manager | 1 |
| 3. | Financial &Administrative Manager | 1 |
| 4. | Office Staff | 3 |
| 5. | Skill Workers | 7 |
| 6. | Unskill Workers | 20 |
| 7. | Watch Man | 2 |
| | Total | 35 |

PROPOSAL FORM (1) RE-ITEM 12 (a).(b).(c)
Particular Relating to Economic Justification
Shwe Aung Yadana Co:Ltd

Profit and Loss Budget (Kyat in Thousand)

Exhibition( IX)

| Sr No. | | Particulars | Year 1 | Year 2 | Year 3 | Year 4 | Year 5 |
|---|---|---|---|---|---|---|---|
| 1. | | SALE INCOME | | | | | |
| | 1. | Sale Income | 22285.6 | 22731.3 | 26000 | 27300 | 27300.0 |
| | | Sub-Total | 22285.6 | 22731.3 | 26000 | 27300 | 27300.0 |
| 2. | | Cost of Production(Direct Cost) | | | | | |
| | 1. | Raw Material Purchases | 11083.0 | 11687.3 | 12424.7 | 13360.8 | 13986.5 |
| | 2. | Direct Salary | 4560.0 | 4560.0 | 5016.0 | 5016.0 | 5016.0 |
| | 3. | Other Production Cost. | 650.0 | 715.0 | 858.0 | 858.0 | 800.9 |
| | | Sub-Total | 16293 | 16962.3 | 18298.7 | 19234.8 | 19803.4 |
| 3. | | Gross Profit | 5992.6 | 5769 | 7701.3 | 8065.2 | 7496.6 |
| 4. | | Expenditure (Indirect Cost) | | | | | |
| | 1. | Indirect Salary | 960.0 | 960.0 | 1056.0 | 1056 | 1056 |
| | 2. | Selling &Distribution Expenses | 150.0 | 150.0 | 180.0 | 180.0 | 180.0 |
| | 3. | Repair & Maintenance | 269.0 | 297.0 | 356.4 | 427.7 | 297 |
| | 4. | Administration Expenses | 1855.0 | 1855.0 | 2073.5 | 2073.5 | 2073.5 |
| | 5. | Dead Rent | 6.0 | 6.0 | 6.0 | 6.0 | 6.0 |
| | 6. | Depreciation | 748.8 | 748.8 | 748.8 | 748.8 | 748.8 |
| | | Sub-Total | 4019.7 | 4046.8 | 4420.7 | 4492 | 4361.3 |
| 5. | | Profit Before Tax | 1972.9 | 1722.2 | 3280.6 | 3573.2 | 3135.3 |
| 6. | | Income Tax(30%) | - | - | - | 1072 | 940.6 |
| 7. | | Profit After Tax | 1972.9 | 1722.2 | 3280.6 | 2501.2 | 2194.7 |

PROPOSAL FORM (1) RE- 12(C)
Shwe Aung Yadana Co.LTD
Recoupment Period

Exhibition No (XI)
(Kyats in Thousand)

| Sr No | | Particular | | Year 1 | Year 2 | Year 3 | Year 4 | Year 5 |
|---|---|---|---|---|---|---|---|---|
| 1 | | 2 | | 3 | 4 | 5 | 6 | 7 |
| 1 | | Net Profit After Tex | | | | | | |
| | 1 | Profit After Tex | | 1972.9 | 1722.2 | 3280.6 | 2501..2 | 2194.7 |
| | 2 | Depreciation. | | 748.8 | 748.8 | 748.8 | 748.8 | 748.8 |
| | | | | 2721.7 | 2471.0 | 4029.4 | 3250.0 | 2943.5 |
| 2 | | Investment | | | | | | |
| | 1 | Equity Capital in Cash | 4006.0 | | | | | |
| | 2 | Building | 994.0 | | | | | |
| | 3 | Machineries | 5000.0 | | | | | |
| | | | 10000.0 | | | | | |
| 3 | | Total Net Profit | -10000.0 | 2721.7 | 2471.0 | 4029.4 | 3250.0 | 2943.5 |
| 4 | | Opening Balance | - | -10000.0 | -7278.3 | -4807.3 | -777.9 | 2472.1 |
| 5 | | Accumulative Net Profit | -10000 | -7278.3 | -4807.3 | -777.9 | 2472.1 | 5415.6 |

Note: (1) Pay Back Period is 3 Years and 1 Month

| | Kyats | Period |
|---|---|---|
| Year 1 to 3 | -777.9 | 3 Years |
| Year 4(777.9/3250)x 12 Months | +777.9 | 1 Month1 month |

PROPOSAL FORM (1) RE-ITEM 12 (f)
Shwe Aung Yadana Co:Ltd
INTERNAL RATE OF RETURN

Exhibition(XII)
(Kyat and thousand)

| Year | Investment | Next Profit | Depreciation | Total Cash in Flow | Cash Flow | DCF | | DCF | | DCF | |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | | | DF25% | DCF | DF26% | DCF | DF28% | DCF |
| 0 | | | | | | | | | | | |
| 1. | 10000.0 | 1972.9 | 748.8 | 2721.7 | -7278.3 | 0.800 | -5822.6 | 0.794 | -5779 | 0.781 | -5684.4 |
| 2. | | 1722.2 | 748.8 | 2471 | 2471 | 0.640 | 1581.4 | 0.630 | 1556.7 | 0.610 | 1507.3 |
| 3. | | 3280.6 | 748.8 | 4029.4 | 4029.4 | 0.512 | 2063.1 | 0.500 | 2014.7 | 0.477 | 1922 |
| 4. | | 2501.2 | 748.8 | 3250 | 3250 | 0.410 | 1332.5 | 0.397 | 1290.3 | 0.373 | 1212.3 |
| 5. | | 2194.7 | 748.8 | 2943.5 | 2943.5 | 0.328 | 965.5 | 0.315 | 927.2 | 0.291 | -856.6 |
| | | | | | | | | | | | |
| Total | 10000.0 | 11671.6 | 3744 | 15415.6 | 5415.6 | | +119.9 | | -917.3 | | -186.2 |

Internal Rate of Return = 26+2 (9.9/285.2)
= 26+0.07
IRR = 26.07 %

PROPOSAL FORM (1) RE-ITEM 12 (d)

Shwe Aung Yadana Co;Ltd

TOTAL CAPITAL COST.

Exhibition (X)

Kyat and Thousand

| Sr No. | | Particular | Total |
|---|---|---|---|
| 1 | | 2 | 3 |
| 1 | | Investment Type | |
| | A | LOCAL CAPITAL | |
| | 1. | In Cash | 4006.00 |
| | 2. | In Building | 994.00 |
| | 3. | In Machineries. | 5000.00 |
| | | TOTAL CAPITAL | 10000.00 |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရှေ့နေချုပ်ရုံး

စာအမှတ်၊ ၂(၄)၁/၁၆-၁၅ ( )
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်

အကြောင်းအရာ။ **အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ပြည်တွင်းအဖွဲ့အစည်းများ ရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်ဖက်စပ် ထုတ်လုပ်မှုလုပ်ငန်းအတွက် ချုပ်ဆိုမည့်သဘောတူစာချုပ် (မူကြမ်း)များအပေါ် သဘောထားမှတ်ချက်ပေးရန် ကိစ္စ**

ရည်ညွှန်းချက်။ သတ္တုတွင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၁၆-၇-၉၈ ရက်စွဲပါစာအမှတ် ၂၆-အဖွဲ့ခွဲ(၂)၉၈(၁၅မိုင်)

၁။ သတ္တုတွင်းဝန်ကြီးဌာနလက်အောက်ရှိအမှတ်(၂)သတ္တုတွင်းလုပ်ငန်းက မန္တလေးတိုင်း၊ သပိတ်ကျင်းမြို့နယ်(၁၅)မိုင်စခန်းတွင် ရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်ဖက်စပ်ထုတ်လုပ်မှုလုပ်ငန်းကို အောက်ဖော်ပြပါပြည်တွင်းအဖွဲ့အစည်းများနှင့် ဆောင်ရွက်ရန် ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)များအပေါ်သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသော ကိစ္စဖြစ်ပါသည်—

(က) မြန်မာ့သားကောင်း ကုမ္ပဏီလီမိတက်
(ခ) ရှမ်းဦးမအေးချမ်းရေး ကုမ္ပဏီလီမိတက်
(ဂ) ကော့ဝိုင်း ကုမ္ပဏီလီမိတက်
(ဃ) ရွှေပဒုမ္မာ ကျောက်မျက်ထုတ်ဖော်ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်
(င) Myanmar Precious Gems & Jewllery Co., Ltd.

၂။ ရည်ညွှန်းစာနှင့်အတူ ပူးတွဲပေးပို့သောစာချုပ်(မူကြမ်း) (၅)စောင်မှာ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ဖော်ပြပါ ပြည်တွင်း ကုမ္ပဏီ(၅)ခုအကြား ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)များဖြစ်ပြီး ယင်းစာချုပ်များသည် တစ်ခုနှင့်တစ်ခုအလားတူပုံစံ ရေးသားထားခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ ဖော်ပြပါစာချုပ်(ပူကြမ်း)များကို လေ့လာစိစစ်ပြီး အောက်ပါအတိုင်း အကြံပြုပါသည် —

(က) စာချုပ်(ပူကြမ်း)များ၏ အပိုဒ် ၆-၁ တွင် ကန်ထရိုက်တာက အမှတ်(၂)သပ္ပြုကွင်း လုပ်ငန်းသို့ ပေးသွင်းရမည့်အကျိုးပြုတန်ဖိုးငွေ ပမာဏကို ဖော်ပြထားသော်လည်း မည်သည့်နေ့ရက်တွင် မည်သို့မည်ပုံ ပေးသွင်းရမည်ဟု ဖော်ပြယားခြင်း မရှိသောကြောင့် နောင်တွင်နှစ်ဖက်အငြင်းပွားမှု မဖြစ်ပေါ်စေရန် စာချုပ်စဉ်ကပင် တိတိကျကျ ထည့်သွင်း ဖော်ပြထားသင့်ပါသည်၊

(ခ) စာချုပ်(ပူကြမ်း)များ၏ အပိုဒ် ၈-၁ တွင်ဘဏ် အာမခံငွေများကို သ-တ-လ(၂)အမည်ဖြင့် သတ်မှတ်ထားသည့် ဘဏ်အာမခံပုံစံအတိုင်း အာမခံထားရှိရမည်ဖြစ်ကြောင်း ရေးသားထားပါသည်။ ဘဏ်အာမခံထားရှိရမည့်ဘဏ်အမည်ကို စာချုပ်အား လက်မှတ်ရေးထိုးခြင်း မပြုမီ နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ စာချုပ်တွင်တိတိကျကျသတ်မှတ်ဖော်ပြထားရန်ဖြစ်ပြီး အမှန်တကယ်အသုံးပြုမည့် ဘဏ်အာမခံပုံစံ ကို သက်ဆိုင်ရာဘဏ်နှင့်ညှိနှိုင်းပြီး စာချုပ်တွင် နောက်ဆက်တွဲ အဖြစ်ရည်ညွှန်း ဖော်ပြ ပူးတွဲထားရှိရန်ဖြစ်ပါသည်။

(ဂ) စာချုပ်(ပူကြမ်း)များ အပိုဒ် ၅-၁ တွင်စာချုပ် အား သက်တမ်းတိုးမြှင့်ခြင်း သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏အတည်ပြုချက် ရရှိမှသာလျှင် အတည်ဖြစ်စေရမည်ဟု ထည့်သွင်း ဖော်ပြ ပေးလိုက်ပါသည်၊

(ဃ) စာချုပ်(ပူကြမ်း)မှာ အပိုဒ် ၂၇-၆ တွင် ဤသဘော တူ စာချုပ်အား ပြင်ဆင်ဖြည့်စွက်ခြင်း များ သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက် ရမှသာအတည်ဖြစ် စေရမည်ဟုထည့်သွင်း ဖော်ပြ ပေးလိုက်ပါသည်၊

(င) စာချုပ်(ပူကြမ်း)များ တွင် အခြားလိုအပ်သော နေရာ များ၌ ပင်နှံဖြင့်ပြင်ဆင်ဖြည့်စွက် ပေးလိုက်ပါသည်။

၄။ စာချုပ် (ပုံကြမ်း) များ ပါရှိ သတ္တုထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် မြန်မာ့သတ္တုတွင်း ဥပဒေပုဒ်မ ၇ အရ၊ သတ္တုတွင်း ဝန်ကြီးဌာနသည် အစိုးရအဖွဲ့၏ သဘောတူညီချက်ဖြင့်ခွင့်ပြုမိန့်ထုတ်ပေး ရန်လိုအပ်မည်ဖြစ်ပါသည်။

၅။ စာချုပ် (ပုံကြမ်း) များ တွင်ပါရှိသော စီမံရေး ရာ၊ ဘဏ္ဍာရေးရာ၊ နှင့်ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များ အတွက် သက်ဆိုင်ရာ ဌာနများ နှင့်ညှိနှိုင်း ဆောင်ရွက် ရန်အကြံပြုပါသည်။

၆။ စာချုပ် ချုပ်ဆိုကြမည့် အထက်စာပိုဒ် (၁) ပါပြည်တွင်းကုမ္ပဏီလီမိတက်များ သည် တရား ဝင်ဖွဲ့စည်း ထားသော ကုမ္ပဏီများ ဟုတ် မဟုတ်၊ စာချုပ် ပါ လုပ်ငန်း ကိုလုပ်ကိုင်ရန် ငွေကြေး အင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ် ရေး ထိုး မည့်သူသည်တရား ဝင်လွှဲအပ်ခြင်း ခံရသူဟုတ် မဟုတ် စသည်တို့ အတွက် သက်ဆိုင်ရာစာရွက်စာတမ်း များ တောင်း ယူစိစစ်သင့်ပါသည်။

၇။ စာချုပ် (ပုံကြမ်း) များကို လက်မှတ်ရေး ထိုး ပြီး ပါက မှတ်တမ်းတင် ထား ရှိနိုင်ရန်အတွက် ဤရုံး သို့မိတ္တူ (၃) စောင်စီ ပေး ပို့ပါရန် မေတ္တာရပ်ခံ အပ်ပါသည်။

၈။ နောင်တွင် ဤရုံး သို့ဥပဒေအကြံဉာဏ်နှင့်သဘောထားမှတ်ချက်များ တောင်း ခံရာတွင် ညွှန်ကြား ရေးမှူး ချုပ်၊ ရှေ့နေချုပ်ရုံး သို့လိပ်မူ ပေးပို့ ရန် ဖြစ်ကြောင်း ဖော်ပြအပ်ပါသည်။

ညွှန်ကြား ရေး မှူး ချုပ် (ကိုယ်စား)
(စန်းမောင်၊ ညွှန်ကြား ရေး မှူး)

သတ္တုတွင်း ဝန်ကြီး ဌာန
ဝန်ကြီး ရုံး

ကန့်သတ်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
အမှတ် (၂) သတ္တုတွင်းလုပ်ငန်း
ရန်ကုန်မြို့

နှင့်

ရွှေအောင်ရတနာကုမ္ပဏီလီမိတက်

တို့၏

သပိတ်ကျင်းမြို့နယ် (၅) မိုင်စခန်း ရွှေလုပ်ကွက် (E-4)
အား
ရွှေသတ္တုထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်လုပ်ငန်း

# သဘောတူစာချုပ်

၁၉၉၇ ခုနှစ်၊ လ၊ ( ) ရက်၊ ရန်ကုန်မြို့

# မာတိကာ

# သပိတ်ကျင်းမြို့နယ် (၅) မိုင်စခန်း ရွှေလုပ်ကွက် (E4) အား ရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေစံစားသည့်လုပ်ငန်း

## သဘောတူစာချုပ်

ဤသဘောတူစာချုပ်ကို ၁၉၉၈ ခုနှစ် ၊ လ ( ) ရက်နေ့တွင် ဦးတင်ဝင်း ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အမှတ် (၂) သတ္တုတွင်းလုပ်ငန်း၊ သတ္တုတွင်းဝန်ကြီးဌာန ၊ အမှတ် (၉၀) ၊ ကံဘဲ့လမ်း ၊ ရန်ကင်းမြို့နယ် ၊ ရန်ကုန်မြို့ (နောင်တွင် "သတလ (၂)" ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကတစ်ဖက်နှင့် ဦးတင်ဝင်း (အမျိုးသားမှတ်ပုံတင်အမှတ် ၉/မရမ (နိုင်) ဝ၆ဝ၄၄၄) မန်နေဂျင်းဒါရိုက်တာ ကိုယ်စားပြုသော ရွှေအောင်ရတနာကုမ္ပဏီလီမိတက် အမှတ် ၃ဝ (အေ)၊ အခန်း၁၊ ယောမင်းကြီးလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့ (နောင်တွင် "ကန်ထရိုက်တာ" ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ၊ ဥပဒေအရလွှဲအပ်ခြင်း ခံရသူများပါဝင်သည်။) ကအခြားတစ်ဖက် တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ နှစ်ဖက်သဘောတူ ချုပ်ဆိုကြပါသည် -

### အပိုင်း (၁)
### ရည်ရွယ်ချက်

၁-၁ အောက်ပါအတိုင်း ရည်ရွယ်ချက် ထားရှိပါသည် -

(က) သတလ (၂) မှ လက်ရှိတိုင်းတာသတ်မှတ်ပြီးသော သပိတ်ကျင်းမြို့နယ် ၊ (၅) မိုင် စခန်းရွှေလုပ်ကွက် (E4) အားပြည်တွင်း မြန်မာနိုင်ငံသားများဖြင့် ဖွဲ့စည်းထားသော ရွှေသတ္တုထုတ်လုပ်မှုဆိုင်ရာ ကျွမ်းကျင်သူများနှင့် ပူးပေါင်းပြီး တူးဖော် ထုတ်လုပ်ရေးလုပ်ငန်းကို လုပ်ကိုင်ခြင်းအားဖြင့် နိုင်ငံတော်မှ သတ္တုထုတ်ကုန် တိုးတက်ရရှိစေရေး နှင့် နိုင်ငံတော်၏ သတ္တုကဏ္ဍဖွံ့ဖြိုးတိုးတက်စေရေး။

(ခ) မန္တလေးတိုင်း၊ သပိတ်ကျင်းမြို့နယ် ၊ (၅) မိုင်စခန်း ၊ ရွှေလုပ်ကွက် (E4) မှရွှေသတ္တုတူးဖော်ထုတ်လုပ်ခြင်းအားဖြင့် ဒေသဖွံ့ဖြိုးလာစေရန်နှင့် သတ္တုတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းဖြင့် အသက်မွေးဝမ်းကျောင်းပြုလုပ်သည့် ကုမ္ပဏီဝန်ထမ်းများ နှင့် ဒေသခံပြည်သူတို့ အလုပ်အကိုင်သစ်များရရှိပြီး လူမှုရေး၊ စီးပွားရေး၊ ဖွံ့ဖြိုးတိုးတက်စေရေး။

## အပိုင်း (၂)
## ကိုယ်စားပြုခြင်း နှင့် အာမခံခြင်း

၂-၁ ဤသဘောတူစာချုပ်ကို ချုပ်ဆိုကြသော နှစ်ဖက်အဖွဲ့အစည်းတို့သည် ထိုသို့သဘောတူစာချုပ် ချုပ်ဆိုနိုင်ရန်အတွက် တည်ဆဲဥပဒေများအရ လုပ်ကိုင်ခွင့် အခွင့်အာဏာ နှင့် စီးပွားရေးအရ နိုင်မာတောင့်တင်းမှုရှိကြသော အဖွဲ့အစည်းများ ဖြစ်ကြကြောင်းကို အာမခံကြပါသည်။

## အပိုင်း (၃)
## အဓိပ္ပါယ်ဖွင့်ဆိုချက်

၃-၁ သဘောတူစာချုပ်တွင် နောက်ပိုင်းသုံးစွဲမည့် စကားရပ်များအတွက် အဓိပ္ပါယ်ဖွင့်ဆိုချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) သတ္တုရိုင်း (ORE) ဆိုသည်မှာ - ရွှေသတ္တုပါဝင်သော သတ္တုရိုင်းကို ဆိုသည်။

(ခ) ရွှေသတ္တုဆိုသည်မှာ - ရွှေအနည်းဆုံး (၁၄) ပဲရည်နှင့်အထက် ချွတ်စင်ပြီး ရွှေသတ္တုကို ဆိုသည်။

(ဂ) ဆက်စပ်သတ္တုဆိုသည်မှာ - ဘူမိဗေဒအနေအထားအရ ရွှေသတ္တု တူးဖော်သန့်စင်ရာတွင် ပါဝင်နိုင်သောသတ္တုများကို ဆိုသည်။ သို့ရာတွင် ယင်းစကားရပ်၌ ပလက်တီနမ် ၊ စိန်၊ ကျောက်မျက်၊ ကျောက်စိမ်း နှင့် မြုပ်နှံထားသော ရှေးဟောင်းအဖိုးတန်ပစ္စည်းများ မပါဝင်စေရ။

(ဃ) ထရိုင်အောင်စ ဆိုသည်မှာ - ၁.၉၀၄၇ ကျပ်သား (သို့မဟုတ်) ၃၁.၁၀၃ ဂရမ် (သို့မဟုတ်) ၀.၀၃၁၁ ကီလိုဂရမ် (သို့မဟုတ်) ၀.၀၀၀၀၃၁ မက်ထရစ်တန် (သို့မဟုတ်) ၀.၀၆၈ ပေါင်ကို ဆိုသည်။

(င) တန်ချိန်ဆိုသည်မှာ - ဂရမ် (၁,၀၀၀,၀၀၀) (သို့မဟုတ်) ကီလိုဂရမ် (၁,၀၀၀) ရှိသော မက်ထရစ်တန်ကို ဆိုသည်။

(စ) ဘဏ္ဍာရေးနှစ်ဆိုသည်မှာ - နှစ်စဉ်ပြက္ခဒိန်နှစ် တစ်နှစ်၏ ဧပြီလဆန်း (၁)ရက်နေ့မှစ၍ နောင်လာမည့်နှစ် မတ်လ (၃၁) ရက် ကုန်ဆုံးသော (၁၂) လတာကာလကိုဆိုသည်။

## အပိုင်း (၄)
## လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်

၄-၁ ဤသဘောတူစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်သည် သပိတ်ကျင်းမြို့နယ်တွင် တည်ရှိပြီး နောက်ဆက်တွဲ (က) တွင်မြေပုံညွှန်းနှင့်တကွ ဖော်ပြထားသည့် ခွင့်ပြုသော ဧရိယာ (၄၅) ဧက (စတုရန်းကီလိုမီတာအားဖြင့် စုစုပေါင်း ၀.၁၈၁)၏ နယ်နမိတ်အတိုင်း ဖြစ်သည်။

## အပိုင်း (၅)
## စာချုပ်သက်တမ်း

၅-၁ ဤသဘောတူစာချုပ်အရ သတ္တုတူးဖော် ထုတ်လုပ်ရန် ခွင့်ပြုသည့်ကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၅)နှစ် ဖြစ်သည်။ ဤသတ်မှတ်ခွင့်ပြုကာလ မကုန်ဆုံးမီ (၃) လ အလိုတွင် ကန်ထရိုက်တာသည် နောက်ထပ်ကာလ တိုးမြှင့်ပေးရန်အတွက် သတလ (၂) သို့လျှောက်ထားနိုင်သည်။ ဤသဘောတူစာချုပ်အား သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက် ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

## အပိုင်း (၆)
## လုပ်ငန်းအတွက် အဆိုပြုတန်ဖိုး

၆-၁ ကန်ထရိုက်တာသည် သပိတ်ကျင်းမြို့နယ် (၅) မိုင် ရွှေလုပ်ကွက်အမှတ် (E4) အတွက် သတလ (၂) သို့ အဆိုပြုတန်ဖိုးငွေကျပ် (၈,၀၀၆,၀၀၀/-) (ကျပ် ရှစ်ဆယ်သိန်း ခြောက်ထောင် တိတိ) ကိုပေးသွင်း ရမည်။

## အပိုင်း (၇)
## ရင်းနှီးမြှုပ်နှံမှုပမာဏ

၇-၁ ကန်ထရိုက်တာသည် (၅)မိုင်စခန်း (E4) လုပ်ကွက် တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ရင်းနှီးမြှုပ်နှံမှု ပမာဏအဖြစ် အနည်းဆုံး ငွေကျပ် (၁၀,၀၀၀,၀၀၀/-) (ကျပ်သိန်း တစ်ရာ တိတိ) ကို အသုံးပြုရမည်။ ရင်းနှီးမြှုပ်နှံမှု တစ်ရပ်လုံးကို ကန်ထရိုက်တာမှ ကျခံရမည်။

## အပိုင်း (၈)
## ဘဏ်အာမခံငွေ

၈-၁ ကန်ထရိုက်တာသည် ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးနောက် ရက်ပေါင်း (၃၀)အတွင်း ဘဏ်အာမခံငွေအဖြစ် ကျပ်ငွေ (၁,၀၀၀,၀၀၀/-) (ကျပ် ဆယ်သိန်းတိတိ)ကို သတလ (၂) အမည်ဖြင့် သတ်မှတ်ထားသည့် ဘဏ်အာမခံပုံစံအတိုင်း အာမခံထားရှိရမည်။ ဘဏ်အာမခံငွေထားခြင်းသည် စာချုပ်သက်တမ်းတိုးမြှင့်သည့်ကာလအထိ (သို့မဟုတ်) ကန်ထရိုက်တာမှ ဤစာချုပ်ပါ တာဝန်ဝတ္တရားအားလုံး ဆောင်ရွက်ပြီးစီးသည်အထိ စာချုပ်သက်တမ်းတစ်လျှောက် ထားရှိရမည်။ ဤစာချုပ်ပါ သဘောတူညီချက်များအတိုင်း ဆောင်ရွက်ရန် ကန်ထရိုက်တာမှ ပျက်ကွက်ခဲ့လျှင် အပိုင်း (၂၂-၁/ခ) ပါအတိုင်း စာချုပ်အားရပ်စဲ၍ သတလ (၂) မှ ဘဏ်အာမခံငွေအားလုံးကို သိမ်းယူနိုင်သည်။ စာချုပ်သက်တမ်း ကုန်ဆုံးလျှင်သော်လည်းကောင်း၊ ကန်ထရိုက်တာ၏ အပြစ်ကြောင့်မဟုတ်ဘဲ တစ်စုံတစ်ရာသော အကြောင်းကြောင့် နှစ်ဖက်သဘောတူစာချုပ် ဖျက်သိမ်းလျှင်သော်လည်းကောင်း၊ သတလ (၂) သည် ကန်ထရိုက်တာမှ သတလ (၂) သို့ပေးရန် ကျန်ရှိသော ကြွေးမြီများကို နုတ်ယူ၍ ကျန်သော ဘဏ်အာမခံငွေကို ကန်ထရိုက်တာသို့ ပြန်ပေးရမည်။ ဘဏ်အာမခံငွေပုံစံကို နောက်ဆက်တွဲ ( ခ ) ဖြင့် ပူးတွဲထားပါသည်။

## အပိုင်း (၉)
## လုပ်ငန်းအစီအစဉ်

၉-၁ ကန်ထရိုက်တာသည် (၅) မိုင်စခန်း (E4) လုပ်ကွက်အား တူးဖော်လုပ်ကိုင်မည့် လုပ်ငန်းအစီအစဉ်ကို ဤသဘောတူစာချုပ် ချုပ်ဆိုပြီး ရက်ပေါင်း (၃၀) အတွင်း သတလ (၂) သို့တင်ပြရမည်။ လုပ်ငန်းအစီအစဉ်တွင် ရွှေသတ္တုတူးဖော်ခြင်း၊ သန့်စင်ခြင်း နှင့် ချွတ်စင်ခြင်း နည်းစဉ်များကို ထည့်သွင်းဖော်ပြရမည်။

၉-၂ ကန်ထရိုက်တာသည် သတလ (၂) ၏ အတည်ပြုချက် ရရှိပြီးသော လုပ်ငန်းအစီအစဉ်ကို အတည်ပြုချက်ရရှိပြီးသည်နှင့်တပြိုင်နက် စတင်အကောင်အထည်ဖော် ရမည်။ လုပ်ငန်းအစီအစဉ်သည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

# အပိုင်း (၁၀)
# အထွေထွေတာဝန်များ

၁၀-၁ ကန်ထရိုက်တာ၏ တာဝန်များ

ကန်ထရိုက်တာသည် အောက်ပါတို့ကို တာဝန်ယူရမည် -

(က) သတလ (၂) သို့ တင်ပြသည့် လုပ်ငန်းအစီအစဉ်အရ သတ္တုထုတ်လုပ်ရာတွင် ကုန်ကျစရိတ်၊ သယ်ယူပို့ဆောင်မှု ကုန်ကျစရိတ် နှင့် အခြားအထွေထွေ ကုန်ကျစရိတ်အဝဝကို ကျခံရမည်။

(ခ) ဤစာချုပ်အရ တူးဖော်ခွင့်ပြုထားသည့် သတ္တုကိုသာ တူးဖော်လုပ်ကိုင်ရမည်။ သတ်မှတ်လုပ်ကွက်အတွင်း ခွင့်ပြုထားသည့် သတ္တုမဟုတ်ဘဲ အခြားသတ္တုများ၊ ကျောက်မျက်ရတနာများ တွေ့ရှိပါက အဆိုပါတွေ့ရှိမှုကို သတလ (၂) သို့ချက်ချင်းသတင်းပို့ရမည်။

(ဂ) တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းများကို ကောင်းမွန်မှန်ကန်အောင် သတ္တုတူးဖော်ထုတ်လုပ်မှု အတွေ့အကြုံများအပေါ် အခြေခံ၍ အကောင်းဆုံးဖြစ်အောင် လိုက်နာဆောင်ရွက်ရန်နှင့် နောင်ဆက်လက်ဆောင်ရွက်ရမည့် တူးဖော်ထုတ်လုပ်မှုလုပ်ငန်းများကို မထိခိုက်နိုင်အောင် ဆောင်ရွက်ရမည်။

(ဃ) သတ်မှတ်ခွင့်ပြုထားသော လုပ်ကွက်ဧရိယာ၏ အပြင်ဘက်တွင် သတလ (၂)၏ စာဖြင့်ခွင့်ပြုချက် မရရှိဘဲ ရွှေ နှင့် အခြားသတ္တုပစ္စည်းများကို တူးဖော်ခြင်း လုံးဝမပြုလုပ်ရ။

(င) သတ္တုတူးဖော်ထုတ်လုပ်ခြင်းကို တင်ပြအတည်ပြုထားသော အစီအစဉ်များအတိုင်းသာ ဆောင်ရွက်ရမည်။

(စ) သတ္တုတူးဖော်ခြင်းမှ ထွက်လာသော စွန့်ပစ်ပစ္စည်းများသည် မြစ် ၊ ချောင်း ၊ အင်းအိုင်များကိုသော်လည်းကောင်း၊ အခြားလုပ်ကွက်များကိုသော်လည်းကောင်း၊ အများပြည်သူနှင့် သက်ဆိုင်သော လမ်းများ၊ အဆောက်အဦးများကိုသော်လည်းကောင်း ၊ ညစ်ညမ်းမှု၊ ပိတ်ဆို့မှုနှင့် အခြားပတ်ဝန်းကျင် ညစ်ညမ်းထိခိုက်မှုများ မရှိစေရန်အတွက် ဆောင်ရွက်ရမည်။

(ဆ) သတ္တုတူးဖော်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် ကုန်ထုတ်စွမ်းအား အပြည့်အဝ ရရှိနိုင်ရေးအတွက် လုပ်ငန်းကျွမ်းကျင်သူများကို လုံလောက်စွာ ခန့်ထားရမည်။

(ဇ) လုပ်ငန်းအစီအစဉ်များကိုဆောင်ရွက်ရာတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရမှ ပြဋ္ဌာန်းထုတ်ပြန်ထားသော သတ္တုတွင်းဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေများ၊လုပ်ထုံးလုပ်နည်းများ၊ အမိန့်ကြော်ငြာစာများ၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရမည်။

(ဈ) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းသို့ ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့် သတ္တုတူးဖော်မှု လုပ်ငန်းအတွက် အသုံးပြုမည့် စက်ပစ္စည်းများ၊ ယာဉ်ယန္တရားများနှင့် လုပ်ငန်းနှင့် သက်ဆိုင်သော လုပ်ငန်းသုံးပစ္စည်းများအား တည်ဆဲစည်းမျဉ်း ၊ စည်းကမ်း သတ်မှတ်ချက်များနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ဖြင့် ပြည်ပမှ တင်သွင်းခွင့်ရှိသည်။

ပြည်ပမှ တင်သွင်းခဲ့သော ယာဉ်ယန္တရားများနှင့် လုပ်ငန်းသုံး စက်ပစ္စည်းများအနက် ၄ားရမ်းသုံးစွဲခဲ့သည့်ယာဉ်နှင့် စက်ယန္တရားများရှိခဲ့ပါက စာချုပ်သက်တမ်းကုန်ဆုံးသည့် အခါ ပြန်လည်ထုတ်ယူခွင့်ရှိသည်။

(ည) ပြည်ပမှတင်သွင်းလာသည့်ပစ္စည်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သတလ (၂)၏ သဘောတူညီမှုမရဘဲ မြန်မာနိုင်ငံအတွင်း ရောင်းချခြင်းမပြုရ။

(ဋ) သတ္တုတူးဖော်ထုတ်လုပ်ခြင်း၊ သန့်စင်ခြင်း၊ ချွတ်စင်ခြင်း နှင့် သယ်ယူပို့ဆောင်ခြင်းတို့နှင့် ပတ်သက်သည့် လစဉ်အစီရင်ခံစာကို နှစ်ဖက်သဘောတူ ပုံစံများဖြင့် ဖြည့်သွင်း၍ မိတ္တူ (၁)စောင်ကို သတလ (၂) သို့ပေးပို့ရမည်။

(ဌ) ကျွမ်းကျင်မှုဆိုင်ရာ သုံးသပ်ချက်များပါဝင်သော သုံးလပတ်နှင့် နှစ်ချုပ်အစီရင်ခံစာများကိုလည်း သတလ (၂) သို့ အချိန်မှန်မှန် အစီရင်ခံ တင်ပြရမည်။

(ဍ) တူးဖော်ထုတ်လုပ်သည့် လုပ်ငန်းကြောင့် ဒေသတွင်း တည်ရှိနေသော လယ်ယာ ၊ မြေ ၊ အိမ် ၊ ခြံတို့နှင့်ပတ်သက်၍ ထိခိုက်မှုရှိလျှင် သက်ဆိုင်ရာ အာဏာပိုင်များ သတ်မှတ်ပေးထားသော တန်ဖိုးကို လျော်ကြေးအဖြစ် ပေးချေရမည်။

(ဎ) ကန်ထရိုက်တာသည် ရွှေသတ္တုကို သန့်စင်ရာ၌ အနည်းဆုံး (၁၄) ပဲရည် အဆင့်ထိ သန့်စင်ပြီး ရွှေသတ္တုအရည်အသွေးကို အာမခံရမည်။

(ဏ) ထုတ်လုပ်သည့်လုပ်ငန်းစဉ် စတင်သည့်အချိန်မှစ၍ စီမံခန့်ခွဲရေးကော်မတီက အတည်ပြုထားသည့် သတ္တုထုတ်လုပ်မှု လုပ်ငန်းစီမံချက်ပါ လျာထားချက်များအတိုင်း တိုးချဲ့ထုတ်လုပ်ရမည်။

(တ) ခွင့်ပြုသော ဧရိယာနယ်နမိတ်အတွင်းရှိ သစ်ပင်များကို သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ ခုတ်လှဲခြင်းမပြုရ ၊ သစ်ပင်ခုတ်လှဲရန် လိုအပ်ပါက သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်ရယူရမည်။

(ထ) တူးဖော်ထုတ်လုပ်ခြင်းကြောင့် ဖြစ်ပေါ်လာသည့် ကျင်းများကို ပြန်လည်မြေဖို့ပေးရန်နှင့် သစ်ပင်စိုက်နိုင်သည့် အခြေအနေရရှိအောင် ဆောင်ရွက်ပေးရန်နှင့် စိုက်ပျိုးသည့်ကုန်ကျစရိတ်ကို ကျခံပေးရမည်။

(ဒ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် လေထု ၊ ရေထု ၊ မြေထု ညစ်ညမ်းမှု မဖြစ်စေရန် လိုအပ်သည်များကို ဆောင်ရွက်ပေးရမည်။

၁၀-၂ သတလ (၂) ၏ တာဝန်များ

သတလ (၂) သည် အောက်ပါတို့ကို တာဝန်ယူရမည် -

(က) ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်နေ့တွင် လုပ်ပိုင်ခွင့်ပါမစ်ကို ထုတ်ပေးရမည်။

(ခ) ကန်ထရိုက်တာမှ တင်ပြလာသော လုပ်ငန်းအစီအစဉ်ကို ရက်ပေါင်း (၃၀) အတွင်း စစ်ဆေးအတည်ပြုပေးရမည်။

(ဂ) သတ္တုတူးဖော်ထုတ်လုပ်ရာတွင် ကန်ထရိုက်တာမှ ကျွမ်းကျင်မှုဆိုင်ရာ အကူအညီများတောင်းခံလာပါက သင့်တင့်သော အခကြေးငွေဖြင့် ကူညီဆောင်ရွက်ပေးရမည်။

(ဃ) သတလ (၂) သည် လုပ်ငန်းထူထောင် ထုတ်လုပ်မှုအတွက် လိုအပ်သလို လမ်းညွှန်ကြီးကြပ်မှု၊ စစ်ဆေးမှု နှင့် အကြံပြုမှုများကို လုပ်ဆောင်ပေးရမည်။

(င) ကန်ထရိုက်တာမှ အကူအညီတောင်းလာပါက လုပ်ငန်းသုံး ယမ်း နှင့် အပေါင်းပါ ဆက်စပ်ပစ္စည်းများနှင့် အခြားပံ့ပိုးနိုင်သည်များကို အခကြေးငွေ ရယူပြီး ပံ့ပိုးနိုင်သည်။

## အပိုင်း (၁၁)
## ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားခြင်း

၁၁-၁ ထုတ်လုပ်ရရှိသော ရွှေသတ္တုများကို သတလ (၂) နှင့် ကန်ထရိုက်တာတို့သည် အောက်ပါအတိုင်း လစဉ်အချိုးကျ ခွဲဝေခံစားရမည် -

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ဓါတ်သတ္တုခွန် | + | သတလ (၂) | = | စုစုပေါင်း | : | ကန်ထရိုက်တာ |
| ၅% | + | ၂၀% | = | ၂၅% | : | ၆၅% |

၁၁-၂ သတလ (၂) သည် ဓါတ်သတ္တုခွန် ၅% ကို စာချုပ်အပိုဒ် ၁၇ (၁)အရ တန်ဘိုးသင့်ပြီး မြန်မာကျပ်ငွေဖြင့် စီမံကိန်းနှင့် လုပ်ငန်းစစ်ဆေးရေးဦးစီးဌာနသို့ ပေးသွင်းရမည်။

၁၁-၃ သတလ (၂) မှ အချိုးကျရရှိသည့် ရွှေသတ္တုစင်များအား မိမိဆန္ဒအတိုင်း သယ်ယူခြင်း၊ ရောင်းချခြင်းကို လွတ်လပ်စွာ ဆောင်ရွက်နိုင်ခွင့်ရှိသည်။

၁၁-၄ ကန်ထရိုက်တာမှ အချိုးကျရရှိသည့် ရွှေသတ္တုစင်များအား ပြည်တွင်း၌ မိမိဆန္ဒအတိုင်း သယ်ယူခြင်း၊ ရောင်းချခြင်းကို လွတ်လပ်စွာ ဆောင်ရွက်နိုင်ခွင့်ရှိသည်။

၁၁-၅ ကန်ထရိုက်တာမှ အချိုးကျရရှိသည့် ရွှေသတ္တုစင်များအား ပြည်ပသို့ တင်ပို့ရောင်းချလိုပါက သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်နိုင်ခွင့်ရှိသည်။

## အပိုင်း (၁၂)
## သိုလှောင်ခြင်း

၁၂-၁ ကန်ထရိုက်တာသည် သန့်စင်ပြီးသော ရွှေသတ္တုစင်များကို သတ်မှတ်ထားသည့် လုံခြုံရေးစိတ်ချရသော နေရာ၊ သိုလှောင်ခန်း၊ အာမခံသေတ္တာတွင် သေချာစွာထည့်သွင်းထားရမည်။ ယင်းသို့

သို့လျှောင် သိမ်းဆည်းထားသော နေရာကို သော့ခလောက်နှစ်လုံး ခတ်သည့်စံနစ် အသုံးပြု၍ သတလ (၂) နှင့် ကန်ထရိုက်တာတို့က သော့တစ်ချောင်းစီ ထိန်းသိမ်းထားကြရမည်။ သိုလှောင်ခန်း အာမခံ သေတ္တာဖွင့်/ပိတ်ခြင်းကို နှစ်ဖက်အတူတကွ ဆောင်ရွက်ရမည်။

## အပိုင်း (၁၃)
## လွှဲပြောင်းခြင်း

၁၃-၁ သတလ (၂) မှ အချိုးကျရရှိမည့် ရွှေသတ္တုများကို သတလ(၂) မှ သတ်မှတ်ထားသောနေရာတွင် ကန်ထရိုက်တာမှ လွှဲပြောင်းပေးရမည်။

## အပိုင်း (၁၄)
## အခွန်အကောက်များ

၁၄-၁ ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရမှ အခါအားလျော်စွာ သတ်မှတ်ပြဋ္ဌာန်းထားသော အခွန်အကောက်များကို ကန်ထရိုက်တာမှ ပေးဆောင်ရမည်။

၁၄-၂ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ ပြည်ပတွင်ပေးရန်ရှိသောအခွန်အကောက်များကိုကန်ထရိုက်တာမှ ပေးဆောင်ရမည်။

၁၄-၃ ကန်ထရိုက်တာသည် တည်ဆဲဥပဒေများအရ ကန်ထရိုက်တာ၏ ဝန်ထမ်းများမှ ပေးဆောင်ရမည့် ဝင်ငွေခွန်အပါအဝင် အခြားအခွန်အခများကို တာဝန်ယူဆောင်ရွက်ပေးရမည်။

၁၄-၄ ကန်ထရိုက်တာအနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များရရှိရေး အတွက် သတလ (၂) က ကူညီဆောင်ရွက်ပေးရမည်။

၁၄-၅ မြန်မာ့သတ္တုတွင်း ဥပဒေအရ ပေးဆောင်ရန်ရှိသည့် ဤသဘောတူစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ဧရိယာအတွက် ပုံသေမြေငှားရမ်းခ (Dead Rent) ကို တစ်စတုရန်းကီလိုမီတာလျှင် ကျပ် (၆၀၀၀/-) နှုန်းဖြင့် ကန်ထရိုက်တာမှ နှစ်စဉ်ပေးဆောင်ရမည်။

## အပိုင်း (၁၅)
## အာမခံထားရှိခြင်း

၁၅-၁ ကန်ထရိုက်တာသည် မြန်မာနိုင်ငံ အာမခံဥပဒေအရ လိုအပ်သော အာမခံများထားရှိရန် တာဝန်ရှိသည်။

## အပိုင်း (၁၆)
## ငွေပေးချေခြင်း

၁၆-၁ ဤသဘောတူစာချုပ်အရ နှစ်ဦးနှစ်ဖက် အပြန်အလှန်ကျပ်ငွေဖြင့် ပေးရန်ရှိသောငွေများကို ပေးချေရန် ရောက်သည့်နေ့မှ ရက်ပေါင်း (၃၀) အတွင်း ပေးချေရမည်။

## အပိုင်း (၁၇)
## သတ္တု တန်ဖိုးသင့်ခြင်း

၁၇-၁ ထုတ်လုပ်သည့် ရွှေသတ္တုစင် နှင့် နှစ်ကုန်လက်ကျန် ရွှေသတ္တုစင်များအတွက် တန်ဖိုးသတ်မှတ်ရန် လိုအပ်ပါက ကမ္ဘာ့ရွှေဈေးနှုန်းနှင့် မြန်မာ့ရွှေဈေးနှုန်းအပေါ် မူတည်၍ သတ်မှတ်ရမည်။

## အပိုင်း (၁၈)
## အငြင်းပွားခြင်း နှင့် စေ့စပ်ညှိနှိုင်း ဆောင်ရွက်ခြင်း

၁၈-၁ သတလ (၂) နှင့် ကန်ထရိုက်တာသည် စာချုပ်နှင့်ပတ်သက်ပြီး အငြင်းပွားမှုဖြစ်ပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ဖြေရှင်းရမည်။ ရက်ပေါင်း (၉၀) အတွင်းညှိနှိုင်း၍မရပါက ရွှေသတ္တုဖက်စပ်ဗဟိုကြီးကြပ်မှုကော်မတီမှတစ်ဆင့် သတ္တုတွင်းဝန်ကြီးဌာနသို့ တင်ပြ၍ အဆုံးအဖြတ် ခံယူရမည်။ သတ္တုတွင်းဝန်ကြီးဌာန ဝန်ကြီး၏ ဆုံးဖြတ်မှုကို နှစ်ဖက်မှ ကျေအေးစွာ လိုက်နာခံယူရမည်။

## အပိုင်း (၁၉)
## အလုပ်ခန့်ထားခြင်း

၁၉-၁ ကန်ထရိုက်တာသည် လုပ်ငန်းအတွက် အလုပ်ခန့်ထားရာ၌ တည်ဆဲစည်းမျဉ်းဥပဒေများအရ ခန့်ထားရမည်။ ထိုသို့ ခန့်ထားရာတွင် အပိုဒ် ၁၉-၂ ပါ ခန့်ထားမှုများမှအပ သတ္တုတွင်းရှိရာ နယ်မြေရှိဒေသခံ မြန်မာနိုင်ငံသားများကို ဦးစားပေး၍ အလုပ်ခန့်ထားရမည်။

၁၉-၂ ကန်ထရိုက်တာသည် သတလ (၂) ၏ ဝန်ထမ်းများအား ကန်ထရိုက်တာ၏ ဝန်ထမ်းများအဖြစ် ခန့်ထားလိုပါက သတလ (၂)၏ သဘောတူညီချက်ဖြင့် ခန့်ထားနိုင်သည်။ ဝန်ထမ်းများ၏လစာ အကျိုးခံစားခွင့်နှင့် ထောက်ပံ့ကြေးငွေ တို့ကို ကန်ထရိုက်တာမှ ပေးရမည်။ ဝန်ထမ်းများ၏ လစာ အကျိုးခံစားခွင့် နှင့် ထောက်ပံ့ကြေးငွေကို နှစ်ဦးနှစ်ဖက်မျှတစွာ ညှိနှိုင်းထားသည့် လျော်ကန်သင့်မြတ်သောနှုန်းထားဖြင့် ခန့်ထားပေးရမည်။

၁၉-၃ ကန်ထရိုက်တာသည် လုပ်သားများလုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး၊ နေထိုင်စားသောက်ရေး၊ ဆေးဝါးကုသရေး စသည့် လူမှုရေးကိစ္စရပ်များနှင့် သက်သာချောင်ချိရေးကိစ္စရပ်များကို စီစဉ်ပေးရမည်။

၁၉-၄ အလုပ်သမားဆိုင်ရာ ဥပဒေများအရ အလုပ်သမားများ၏ ရပိုင်ခွင့်များကို ကန်ထရိုက်တာမှတာဝန်ယူရမည်။

## အပိုင်း (၂၀)
## စီမံခန့်ခွဲခြင်း

၂၀-၁ (၅) မိုင်စခန်း (၆-၄) လုပ်ကွက် ရွှေထုတ်လုပ်မှုလုပ်ငန်းအား ရွှေသတ္တုဖက်စပ် ဗဟိုကြီးကြပ်မှုကော်မတီအောက်တွင် ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး စီမံခန့်ခွဲမှုလုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် ရွှေသတ္တုဖက်စပ် ဗဟိုကြီးကြပ်မှုကော်မတီအောက်တွင် သတလ (၂) နှင့် ကန်ထရိုက်တာတို့၏ ကိုယ်စားလှယ်များ ပါဝင်သော (၅) မိုင်စခန်း ( ၆-၄ ) လုပ်ကွက် ရွှေသတ္တု ထုတ်လုပ်မှုလုပ်ငန်းစီမံခန့်ခွဲရေး ကော်မတီတစ်ခုကို ဖွဲ့စည်းရမည်။

၂၀-၂ အဆိုပါ ( ၆-၄ ) လုပ်ကွက် ရွှေသတ္တုထုတ်လုပ်မှုလုပ်ငန်း စီမံခန့်ခွဲရေးကော်မတီသည် လုပ်ငန်းစဉ်များ၊ ဘဏ္ဍာရေးကိစ္စများ၊ စီမံခန့်ခွဲမှုကိစ္စရပ်များ အပါအဝင် စာချုပ်ပါလုပ်ငန်းအရပ်ရပ်ကို နှစ်ဦးနှစ် ဖက် ဆွေးနွေးညှိနှိုင်း ဆောင်ရွက်ရမည်။

၂၀-၃ ထိုကော်မတီတွင် အဖွဲ့ဝင် (၅) ဦးပါဝင်ပြီး သတလ (၂) မှ (၃) ဦးနှင့် ကန်ထရိုက်တာမှ (၂) ဦး ပါဝင်စေလျက် သတလ (၂) ၏ ကော်မတီဝင်တစ်ဦးသည် ဥက္ကဋ္ဌ ဖြစ်စေရမည်။ ဥက္ကဋ္ဌမှ ကော်မတီအတွင်းရေးမှူးတစ်ဦးကို ခန့်ထားရမည်။

၂၀-၄ ကော်မတီသည် ရန်ကုန်မြို့ (သို့မဟုတ်) နှစ်ဖက်သဘောတူညီချက် ရရှိထားသော အခြားသင့်လျော်သည့်နေရာတွင် (၃)လ တစ်ကြိမ်ညှိနှိုင်းဆွေးနွေးရမည်။ လိုအပ်ပါက ဥက္ကဋ္ဌသည် အချိန်မရွေး ၎င်းကော်မတီ၏ အစည်းအဝေးကို ခေါ်ယူကျင်းပနိုင်သည်။

၂၀-၅ ကော်မတီဝင်များနှင့် အတွင်းရေးမှူးအတွက် အခကြေးငွေများ (သို့မဟုတ်) အခြားစရိတ်များကို စီမံခန့်ခွဲရေးကော်မတီ၏ အဆုံးအဖြတ်ဖြင့်သာ သတ်မှတ်ဆောင်ရွက်ရမည်။ ယင်းအခကြေးငွေများ (သို့မဟုတ်) အခြားစရိတ်များကို ကန်ထရိုက်တာမှ ကျခံရမည်။

၂၀-၆ စီမံခန့်ခွဲရေး ကော်မတီမှ ဆုံးဖြတ်ရန် ခက်ခဲသည့် (သို့မဟုတ်) မဆုံးဖြတ်နိုင်သည့် ကိစ္စရပ်များအား ရွှေသတ္တုဖက်စပ်ဗဟို ကြီးကြပ်မှုကော်မတီသို့ တင်ပြဆောင်ရွက်ရမည်။

၂၀-၇ စီမံခန့်ခွဲရေးကော်မတီသည် ရွှေသတ္တုဖက်စပ်ဗဟို ကြီးကြပ်မှုကော်မတီမှ အခါအားလျော်စွာ ချမှတ်ထားသော ဆုံးဖြတ်ချက်နှင့် အမိန့်များကို အရေးယူလိုက်နာ ဆောင်ရွက်ရမည်။

## အပိုင်း (၂၁)
## လုပ်ငန်းကြီးကြပ်ဆောင်ရွက်ခြင်း

၂၁-၁ ကန်ထရိုက်တာသည် မန်နေဂျာတစ်ဦးကို နေ့စဉ်လုပ်ငန်းများ ကြီးကြပ်ကွပ်ကဲ ဆောင်ရွက်ရန်အတွက် ခန့်ထားရမည်။ မန်နေဂျာသည် စီမံခန့်ခွဲရေးကော်မတီမှ သတ်မှတ်ပေးသော စည်းမျဉ်းဘောင်အတွင်းမှ တာဝန်ယူ၍ လုပ်ငန်းများကို စီမံဆောင်ရွက်ရမည်။

၂၁-၂ သတ္တုတွင်းဝန်ကြီးဌာန ၊ ရွှေသတ္တုဖြက်စပ်ဗဟို ကြီးကြပ်မှုကော်မတီမှ တာဝန်ပေးထားသော ကိုယ်စားလှယ်များသည် လိုအပ်သောအချိန်အခါတွင် စာချုပ်အရ လုပ်ကိုင်ခွင့်ရှိသော လုပ်ကွက်ဧရိယာသို့သွားရောက်၍ လုပ်ငန်းများကို စစ်ဆေးနိုင်သည်။ ကန်ထရိုက်တာသည်ယင်းသို့ စေလွှတ်ခြင်းခံရသော သတ္တုတွင်းဝန်ကြီးဌာန ရွှေသတ္တုဖြက်စပ်ဗဟို ကြီးကြပ်မှုကော်မတီ၏ ကိုယ်စားလှယ်များကို လိုအပ်သလို ကူညီပံ့ပိုးပေးရမည်။

၂၁-၃ ကန်ထရိုက်တာသည် သတလ (၂) မှတာဝန်ပေး စေလွှတ်သည့် ကိုယ်စားလှယ် (၂) ဦးကို (၅)မိုင်စခန်း (E-4 )၌ ရုံးစိုက်စေပြီး သတ္တုတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းများကို စာချုပ်ပါအတိုင်း ဆောင်ရွက်မှု ရှိ-မရှိ စစ်ဆေးခွင့်ပြုရမည်။

၂၁-၄ ကန်ထရိုက်တာသည် ဤစာချုပ်အပိုဒ် (၂၁-၃) အရ တာဝန်ပေးထားသော သတလ (၂) ကိုယ်စားလှယ်များ၏ သွားလာရေး၊ နေထိုင်ရေး၊ စားသောက်ရေးတို့အတွက် စီမံခန့်ခွဲရေးကော်မတီမှ သတ်မှတ်ထားသော ထောက်ပံ့ကြေးငွေများကို ကိုယ်စားလှယ်များအား စီမံဆောင်ရွက်ပေးရမည်။

၂၁-၅ သတလ (၂) ကိုယ်စားလှယ်များသည် ကန်ထရိုက်တာ၏ ကိုယ်စားလှယ်များနှင့် ရွှေသတ္တုများအားချိန်တွယ် စာရင်းပြုစုခြင်း၊ သတ္တုနမူနာယူခြင်း၊ ထိန်းသိမ်းခြင်း နှင့် ခွဲဝေတင်ပို့မှုတို့ကို ကြီးကြပ်ဆောင်ရွက်ရမည်။ သတ္တုတွင်း၌ ယမ်းနှင့်အပေါင်းပါပစ္စည်းများကို သုံးစွဲပါက မှာယူသုံးစွဲခြင်းကို ကြီးကြပ်ရမည်။

၂၁-၆ အပိုဒ် (၂၁-၂ နှင့် ၂၁-၃) အရ စေလွှတ်သည့် ကိုယ်စားလှယ်များသည် ကန်ထရိုက်တာ၏ ပုံမှန်ဆောင်ရွက်နေသော လုပ်ငန်းများကို ဝင်ရောက်စွက်ဖက်ခြင်းမှ ရှောင်ရှားရမည်။

## အပိုင်း (၂၂)
## စာချုပ်ရုပ်စဲခြင်း

၂၂-၁ ဤစာချုပ်ကို အောက်ဖော်ပြပါ အချက်အလက်များအနက် တစ်ခုခုဖြစ်ပေါ်လာပါက စာချုပ်ဝင်တဖက်ဖက်မှ အခြားတဖက်သို့ ရက်ပေါင်း (၉၀) ကြိုတင်သတိပေးပြီး စာချုပ်ရုပ်စဲနိုင်သည် -

(က) တူးဖော်မှုလုပ်ငန်းသည် အဆက်မပြတ် ဆုံးရှုံးမှုများ ပေါ်ပေါက်နေခြင်း ။

(ခ ) တစ်ဖက်ဖက်မှ စာချုပ်ပါ စည်းကမ်းချက်များ ဖောက်ဖျက်ခြင်း။

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ခုသည် တစ်နှစ်ထက် ကျော်လွန်၍ ဖြစ်ပွားနေခြင်း။

(ဃ) စာချုပ်ပါ စည်းကမ်းအရ သက်တမ်းကုန်ဆုံးခြင်း။

၂၂-၂ ဤသဘောတူစာချုပ်ကို အထက်ပါစည်းကမ်းချက်များအရ လုပ်ငန်းရပ်စဲရာတွင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသဘောတူညီချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်စေရမည်။

၂၂-၃ ဤသဘောတူစာချုပ်အား ရပ်စဲခြင်းအားဖြင့် စာချုပ်မရပ်စဲမီ တာဝန်ရှိခဲ့သည့်ကိစ္စရပ်များမှအပ စာချုပ်ပါ ရှေ့ဆက်လက်ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများ၊ လုပ်ပိုင်ခွင့်များ၊ လုပ်ငန်းဆောင်ရွက်ရန် အချက်အလက်များအားလုံး လုံးဝပြီးပြတ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

## အပိုင်း (၂၃)
## လျှို့ဝှက်ထိန်းသိမ်းခြင်း

၂၃-၁ ကန်ထရိုက်တာသည် ဤသဘောတူစာချုပ်ပါ အချက်အလက်များ၊ စာချုပ်ပါတာဝန်များ၊ လုပ်ငန်း အစီအစဉ်များနှင့် အခြားပတ်သက်ရာ ပတ်သက်ကြောင်းသတင်းအချက်အလက်များကို သတ်မှတ်ထားသည့် ဥပဒေအရ ခွင့်ပြုထားသည့်ကိစ္စမှအပ လျှို့ဝှက်အဆင့်တွင် ထားရမည်။

## အပိုင်း (၂၄)
## မှတ်တမ်းများ ၊ ငွေစာရင်းများ နှင့် စာရင်းစစ်ဆေးခြင်း

၂၄-၁ ကန်ထရိုက်တာသည် ဤသဘောတူစာချုပ်ပါလုပ်ငန်းများနှင့် ပတ်သက်သည့် မှတ်တမ်းများ စသည်တို့ကို အများလက်ခံကျင့်သုံးသော စာရင်းဇယားထားသိုနည်းများအရ စာရင်းများထိန်းသိမ်းထားရှိရမည်။

၂၄-၂ ဤသဘောတူစာချုပ်အရ သတလ (၂) သည် ထုတ်လုပ်မှုနှင့် သိုလှောင်မှတ်တမ်းများနှင့်ပတ်သက်၍ စစ်ဆေးခွင့်ရှိသည်။

၂၄-၃ သတလ (၂) သည် လိုအပ်ပါက ပြင်ပမှ စာရင်းစစ်တစ်ဦးကို စစ်ဆေးရန် ခန့်ထားနိုင်သည်။ ယင်းစစ်ဆေးရမည့်ကာလသည် သက်ဆိုင်ရာ ဘဏ္ဍာရေးနှစ် တစ်နှစ်စာသာ ဖြစ်ရမည်။

## အပိုင်း (၂၅)
## မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၂၅-၁ ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များ ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးကြန့်ကြာခြင်းများ ဖြစ်ပေါ်လာလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်နှင့်အညီဖြစ်ပါက နှစ်ဦးနှစ်ဖက်က

ကင်းလွတ်ခွင့်ပြုရမည်။ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် တစ်ဘက်မှ မိမိလိုက်နာ ဆောင်ရွက်ရမည့်တာဝန် တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ အားလုံးကိုဖြစ်စေ ဆောင်ရွက်ခြင်းမှခေတ္တဆိုင်းငံ့ရမည့်အခြေအနေ ပေါ်ပေါက်လာလျှင် ထိုသို့ဆိုင်းငံ့ရမည့်ဖြစ်ရပ်နှင့် ဖြစ်တန်ရာသည့်ကာလတို့ကို ဖော်ပြလျက် ထိုဖြစ်ရပ် ပေါ်ပေါက်သည့်နေ့မှ (၁၄) တစ်ဆယ့်လေးရက်အတွင်း နစ်နာသူအခြားတစ်ဖက်သို့ စာဖြင့်အကြောင်းကြားရမည်။ ဤသို့အကြောင်းကြားခြင်းကို အခြားတစ်ဖက်မှအတည်ပြု လက်ခံမှသာလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး ထိုနစ်နာသော အချိန်ကာလအတွက် တာဝန်ဝတ္တရားများ ရပ်ဆိုင်းရမည်။ ထိုမလွန်ဆန်နိုင်သော အခြေအနေကို အမြန်ဆုံးကျော်လွှားနိုင်အောင် ဆောင်ရွက်ရမည်။

၂၅-၂ အပိုဒ် (၂၅-၁) ပါအတိုင်း မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်မှုကိုတစ်ဘက်မှအသိပေးပြီး နှစ်ဦးနှစ်ဖက်အတည်ပြု လက်ခံထားသော ဖြစ်ရပ်များပေါ်ပေါက်လာသည့် ကြန့်ကြာမှု၊ ဆုံးရှုံးမှုများအတွက် မည်သည့်ဘက်ကိုမျှ တာဝန်မဖြစ်စေရ၊ မလွန်ဆန်နိုင်သော ဖြစ်ရပ်ဟုခေါ်ဆိုရာတွင် သဘာဝဘေးအန္တရာယ် ၊ ရေကြောင်းဘေးအန္တရာယ်၊ အလုပ်သမားများ၏ နှောင့်ယှက်မှုများ၊ စစ်ပိတ်ဆို့မှု၊ ကူးစက်တတ်သောရောဂါ၊ မြေပြိုမှု၊ ငလျင်လှုပ်မှု၊ မုန်တိုင်း၊ မိုးကြိုးပစ်မှု၊ ရေကြီးမှု၊ ပေါက်ကွဲမှုများနှင့်အခြားအလားတူ ထိန်းချုပ်မရနိုင်သော ဖြစ်ရပ်များ(သို့မဟုတ်) မည်သည့်ဘက် ကမျှ ကြိုးစားအားထုတ်ဆောင်ရွက်မှုဖြင့် တားဆီးမရနိုင်သောဖြစ်ရပ်များပါဝင်သည်။

## အပိုင်း (၂၆)
## အခြားသယံဇာတပစ္စည်းများတွေ့ရှိခြင်း

၂၆-၁ ဤစာချုပ်အရ ရွှေသတ္တုတူးဖော်ထုတ်လုပ်စဉ် ရွှေသတ္တုမှအပ အခြားဓာတ်သတ္တုပစ္စည်းများနှင့် ကျောက်မျက်ရတနာတို့ကို မိမိလုပ်ကွက်အတွင်း တူးဖော်တွေ့ရှိပါက ထိုသို့တူးဖော်တွေ့ရှိကြောင်း ကန်ထရိုက်တာက သတလ (၂) သို့ချက်ချင်းအကြောင်းကြားရမည်။ တူးဖော်တွေ့ရှိသော ရွှေသတ္တုမှအပ အခြားဓာတ်သတ္တုပစ္စည်းများနှင့် ကျောက်မျက်ရတနာများသည် နိုင်ငံတော်ပိုင်ဖြစ်ပြီး ကန်ထရိုက်တာ နှင့် လုံးဝမသက်ဆိုင်စေရ။

၂၆-၂ အကယ်၍ ကန်ထရိုက်တာသည် ရွှေသတ္တုတူးဖော်ထုတ်လုပ်မှုလုပ်ငန်းများကို လုပ်ကိုင်ခွင့်ရှိသော ဧရိယာအတွင်း ဆောင်ရွက်နေစဉ် အခြားဓာတ်သတ္တုများတွေ့ရှိပါက ဆက်လက်လုပ်ဆောင်လိုသည်များကို ကန်ထရိုက်တာနှင့် သတလ (၂) တို့ ညှိနှိုင်း၍ သတ္တုတွင်းဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့်သာ ဆက်လက်ဆောင်ရွက်ရမည်။

# အပိုင်း (၂၇)
## အထွေထွေ

၂၇-၁ ဤသဘောတူစာချုပ်သည်သာလျှင် နှစ်ဦးနှစ်ဖက် အတည်ပြုထားသော သဘောတူညီချက်ဖြစ်သည်။ ဤကိစ္စနှင့်ပတ်သက်၍ ယခင်နှုတ်ဖြင့်သော်လည်းကောင်း၊ စာဖြင့်သော်လည်းကောင်း၊ သဘောတူညီချက် ရှိခဲ့လျှင် ထိုသဘောတူညီချက်များသည် အကျိုးသက်ရောက်မှုမရှိစေရ။

၂၇-၂ ဤသဘောတူစာချုပ်၏ နောက်ဆက်တွဲများသည် ဤသဘောတူစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်ဖြစ်ရမည်။

၂၇-၃ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာ နှင့် အခြားဆက်သွယ်မှုများကို စာတိုက်၊ စကားပြောကြေးနန်း၊ ဖက်(စ်) ၊ တဲလက်(စ်)၊ ကြိုးမဲ့ကြေးနန်း ၊ ကြေးနန်း တို့ဖြင့်ပေးပို့သူက ကျသင့်ငွေကို ကြိုတင်ပေးချေ၍ ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ရာတွင် အောက်ဖော်ပြပါလိပ်စာအတိုင်း ဆက်သွယ်ဆောင်ရွက်ရမည်။

| | |
|---|---|
| အမှတ် (၂) သတ္တုတွင်းလုပ်ငန်း | ကန်ထရိုက်တာ |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေဂျင်းဒါရိုက်တာ |
| အမှတ်(၂) သတ္တုတွင်းလုပ်ငန်း | ရွှေအောင်ရတနာကုမ္ပဏီလီမိတက် |
| အမှတ် (၉၀) ၊ ကံဘဲ့လမ်း | အမှတ် ၃၀ (အေ) ၊ အခန်း (၁) ၊ ယောမင်းကြီးလမ်း |
| ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ | ဒဂုံမြို့နယ် ၊ ရန်ကုန်မြို့ |

၂၇-၄ တစ်ဘက်က တစ်ဘက်သို့ ဆက်သွယ်သောစာများကို လက်ခံရရှိကြောင်း ပြန်ကြားရမည်။

၂၇-၅ <u>စာချုပ်အားလွှဲပြောင်းခြင်း</u>

ကန်ထရိုက်တာသည် သတလ (၂) ၏ စာဖြင့် ကြိုတင်သဘောတူခွင့်ပြုချက် မရရှိဘဲ စာချုပ်ပါဝတ္တရားအားလုံးအား(သို့မဟုတ်) လုပ်ငန်းတစ်စိတ်တစ်ဒေသအား အခြားအဖွဲ့အစည်းသို့လွှဲပြောင်းခြင်းမပြုလုပ်ရ။

၂၇-၆ <u>စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း</u>

ဤသဘောတူစာချုပ်အား နှစ်ဖက်သဘောတူညီမှု မပါရှိဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ ဤသဘောတူစာချုပ်အား ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက် ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

၂၇-၇ စာချုပ်အား ပြန်လည်ညှိနှိုင်းခြင်း
စာချုပ်သက်တမ်းအတွင်း၌ သတလ (၂)နှင့် ကန်ထရိုက်တာတို့သည် ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေ တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ဤစာချုပ်ကို ပြင်ဆင်နိုင်သည်။ သို့သော်စာချုပ်၏ မူလရည်ရွယ်ချက်အား ပျက်ပြယ်ခြင်းမရှိစေရ။

## အပိုင်း (၂၈)
## အကျိုးသက်ရောက်မှုများ

၂၈-၁ ဤသဘောတူစာချုပ်သည် ဤစာချုပ်ကို နှစ်ဦးနှစ်ဖက်မှ လက်မှတ်ရေးထိုးသည့်နေ့မှစ၍ သက်ဝင်အကျိုးသက်ရောက်စေရမည်။

## အပိုင်း (၂၉)
## အစစ်အမှန်ဖြစ်ခြင်း

၂၉-၁ ဤသဘောတူစာချုပ်အား မြန်မာဘာသာဖြင့်ရေးသားပြီး မူရင်းနှစ်အုပ်သာရှိ၍ တစ်ဖက်စီ၌ တစ်အုပ်စီ ရှိရမည်။

ဤသဘောတူစာချုပ်အား ၁၉၉၈ ခု၊ လ၊ ( ) ရက်နေ့တွင် အောက်ပါအတိုင်း နှစ်ဦးနှစ်ဖက် သဘောတူလက်မှတ်ရေးထိုးကြပါသည်။

( ဦးတင်ဝင်း )
ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂) သတ္တုတွင်းလုပ်ငန်း
အမှတ် (၉၀)၊ ကံဘဲ့လမ်း
ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

( ဦးတင်ဝင်း )
မန်နေဂျင်းဒါရိုက်တာ
ရွှေအောင်ရတနာကုမ္ပဏီလီမိတက်
အမှတ် ၃၀ (အေ)၊ အခန်း (၁)၊ ယောမင်းကြီးလမ်း
ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

ကျွန်ုပ်တို့၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးပါသည်။

အသိသက်သေများ

| | | | |
|---|---|---|---|
| ၁။ အမည် | ..................... | ၁။ အမည် | ..................... |
| ၂။ ရာထူး | ..................... | ၂။ ရာထူး | ..................... |
| ၃။ မှတ်ပုံတင်အမှတ် | ..................... | ၃။ မှတ်ပုံတင်အမှတ် | ..................... |
| ၄။ ဌာန နေရပ် | ..................... | ၄။ ဌာန နေရပ် | ..................... |
| | ..................... | | ..................... |
| | ..................... | | ..................... |

နောက်ဆက်တွဲ( က )

## REF. GRID COORDINATES

(5) MILES CAMP (E - 4 ) MINING LEASE AREA.

| | |
|---|---|
| A - 93 - B.1 | - 782407 |
| B - 93 - B.1 | - 786406.5 |
| C - 93 - B.1 | - 786397.5 |
| D - 93 - B.1 | - 782398 |

AREA - 45 ACRES

(or)

0.070 Sq - Miles.

(or)

0.181 Sq - Kibmetres.

နောက်ဆက်တွဲ (ခ)

**FORM OF PERFORMANCE BANK GUARANTEE**

**ME NO. ( 2 ) MINING ENTERPRISE**

**YANGON / MYANMAR**

Dear Sirs,

Subject: Performance Guarantee

This Performance Guarantee shall constitute a guarantee for the performance by the for its obligations and performance relating to the mining operation and all related activities stipulated under the Agreement dated ------------------------------------------199 executed between the No.(2) Mining Enterprise, Yangon(hereinafter referred to as "ME 2") and the '
(hereinafter referred to as )]

In accordance with the aforesaid, We ------------------------------------------------------------ the Bank of ------------------------------------------------------------ hereby guarantee to you the true and faithful performance of the aforesaid Agreement by ' and we irrevocably undertake to pay to you without delay on your first writtn demand together with your written declaration and the detailed description of breach of any terms and conditions and failed in its obligations and performance prescribed by the said Agreement. Our liability to you (ME2) under the said Bank Guarantee shall not in any event exceeed the sum of

This is the agreed sum of the Performance Guarantee for the aforesaid Agreement against restitution of the original of this Performance Guarantee accompanied by your written declaration as aforesaid.

Our Guarantee will remain valid for a period of Five Years and any renewal thereof which shall be made in accordance with the provisions therefor contained in the aforesaid Agreement or until any premature termination not attributable to the breach of conditions of ; or of failure to perform its obligations under the said Agreement by whichever is earlier whereupon our guarantee herein shall become null and void and shall be of no effect whatsoever.

Dated this day of 199

---

Bank



To,

Registrar,
Companies Registration Office,
Ministry of National Planning & Economic Development,
Yangon.

Dated. the 29th JULY, 1998.

Sir,

I hereby submit the following documents for Registration which are required under the Myanmar Companies Act.

Should you need further information regarding documents, I am pleased to furnish them without any hesitation.

1. Memorandum of Association.
2. Articles of Association.
3. Declaration of registration.
4. Declaration of registered office.
5. Declaration of legal version.
6. Translation of Certificate.
7. Company's (3) main objects.
8. List of directors.
9. Undertaking.



Yours sincerely,

DAW CHO CHO WIN

(Director)



FORM I

# DECLARATION OF REGISTRATION OF COMPANY

# MYANMAR COMPANIES ACT

(See Section 24)

Declaration in compliance with the requirements of the Myanmar Companies Act, 1913 made pursuant to Section 24(2) on behalf of a Company proposed to be registered as: SHWE AUNG YADANA CO.,LTD.

Presented for filing by: DAW CHO CHO WIN (DIRECTOR)

I, DAW CHO CHO WIN DIRECTOR OF SHWE AUNG YADANA CO.,LTD.

do solemnly and sincerely declare that all the requirements of the Myanmar Companies Act, 1913 in respect of matters precedent to the registration of the said Company and incidental thereto have been complied with save only the payment of fees and sums payable on registration and I make this solemn declaration conscientiously believing the same to be true.

SIGNATURE DAW CHO CHO WIN

(DIRECTOR)

for and on behalf of

the Board of Directors

WITNESS:

Yangon,

the 29th day of JULY, 1998.



# NOTICE OF THE SITUATION OF THE REGISTERED OFFICE
# OF THE
# SHWE AUNG YADANA CO., LTD.

To-

The Registrar of Joint Stock Companies, Myanmar,
Companies Registration Office,
Directorate of Investments and Company Administration,
Ministry of National Planning and Economic Development,
Yangon.

The abovenamed Company hereby give you notice, in accordance with the provisions of the Myanmar Companies Act that the Registered Office of the Company is situated at No.30(A),Room No.(1),Yawmingyi Street,Dagon Township, Yangon.

Sd/-
SIGNATURE DAW CHO CHO WIN
DIRECTOR

Dated, the 29th day of JULY, , 1998.

# DECLARATION OF OFFICIAL AND LEGAL VERSION
# THE MYANMAR COMPANIES ACT 1913
# AND
# THE MYANMAR COMPANIES REGULATION NO-6.

Name of the Company : SHWE AUNG YADANA CO., LTD.

Presented for filing by : DAW CHO CHO WIN (DIRECTOR)

To,

The Registrar of Joint Stock Companies, Myanmar,
Companies Registration Office,
Ministry of National Planning and Economic Development, Yangon.

I, DAW CHO CHO WIN DIRECTOR OF SHWE AUNG YADANA CO., LTD.

do hereby give you notice in accordance with Regulation No.6 of the Myanmar Companies Regulation 1957, that the official and legal version of the Company's Memorandum and Articles of Association and other documents shall be in English.

SIGNATURE DAW CHO CHO WIN
(DIRECTOR)
for and on behalf of
the Board of Directors

Yangon,

the 29th day of JULY, 1998.



# CERTIFICATE OF TRANSLATION

I, the undersigned, do hereby certify that the work of translation from the original Memorandum & Articles of Association in English of " SHWE AUNG YADANA CO., LTD. " into Myanmar was done by me, and the translation is correct to the best of my knowledge.



THAN SEIN, B.A., B.L.
ADVOCATE / NOTARY PUBLIC
112, 29 th. Street,
PABEDAN, YANGON.
MYANMAR

Yangon,

Dated, the 29th day of JULY, 1998.

FORM XXVI

# PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 37)

Name of Company : SHWE AUNG YADANA CO., LTD.

Presented by : DAW CHO CHO WIN/DIRECTOR

| The present christian name or names of surnames | Nationality. National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U HAW SHAUK CHANG | Myanmar 13/Ka La Ta (Naing)006560 | NO.1261, Mun Kaung Sar Street, Ward(12), Lashio Township, Northern Shan State. | Merchant | |
| 2. U TIN WIN | Myanmar 9/Ma Ya Ma (Naing)060444 | NO.123/18, Between 32nd & 33rd Street, Between 74th & 75th Street, Mawyagiwar Ward, Chanaye Thazan Township, Mandalay Division. | Merchant | |
| 3. U AUNG KYAW WIN (a) U HAW HTAIK CHANG | Myanmar 13/Ka La Ta (Naing)000235 | NO.1260, Mun Kaung Sar Street, Ward(12), Lashio Township, Northern Shan State. | Merchant | |
| 4. U AUNG KYAW OO (a) U HAW HTAIK TEL | Myanmar 13/Ka La Ta (Naing)000236 | NO.1264, Mun Kaung Sar Street, Ward(12), Lashio Township, Northern Shan State. | Merchant | |
| 5. DAW CHO CHO WIN | Myanmar 9/Ma Ya Ma (Naing)071233 | NO.123/18, Between 32nd & 33rd Street, Between 74th & 75th Street, Mawyagiwar Chanaye Thazan Township, Mandalay Division. | Merchant | |
| 6. DAW KYU LAN (a) HAW KYU LAN | Myanmar 13/La Ya Na (Naing)084407 | NO.123/18, Between 32nd & 33rd Street, Between 74th & 75th Street, Mawyagiwar Ward, Chanaye Thazan Township, Mandalay Division. | Merchant | |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............................" and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

This 29-7-98.

Signature

Designation DAW CHO CHO WIN DIRECTOR



မှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး
ရန်ကုန်မြို့။

ရက်စွဲ၊ ၁၉၉၀ ... နှစ်၊ ... လ (၂၄) ရက်

အကြောင်းအရာ ။ ဝန်ခံချက် တင်ပြခြင်း။

အောက်ပါဝန်ခံချက်ကို ရွှေ ဟော ၁ ငီ ပု ဟ နံ ၁ ကုမ္ပဏီလီမိတက် လီမိတက်၏ ပထမဒါရိုက်တာ အားလုံးမှ လက်မှတ်ရေးထိုး၍ ဝန်ခံကြပါကြောင်း တင်ပြအပ်ပါသည်။

ဝန်ခံချက်

ကုမ္ပဏီသည် ၁၉၉၀ ပြည့်နှစ်၊ နိုဝင်ဘာလ (၂၆)ရက် နေ့စွဲဖြင့် ထုတ်ပြန်သော ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေ (နိုင်ငံတော် ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့ ဥပဒေအမှတ် ၂၂/၉၀) ပုဒ်မ ၄၊ ပုဒ်မ ၅၊ ပုဒ်မ ၆၊ ပုဒ်မ ၈ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ မှတ်ပုံတင်ခွင့် ရရှိပြီးမှသာလျှင် ယင်းဥပဒေ သတ်မှတ်ချက်များနှင့်အညီ စက်မှုလက်မှု လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ဝန်ခံကတိပြုပါသည်။

**Undertaking**

The Company hereby undertakes to carry on industrial activities only after obtaining permission in accordance with the requirements of the provisions of Section 4, Section 5, Section 6 and Section 8 of "The Private Industrial Enterprise Law" (The State Law and Order Restoration Council Law No. 22/90) of $26^{th}$ November 1990.

( ဦး ကျော်ငြိမ်း ဘုန်းချိန် )
ဒါရိုက်တာ

( ဦး ဝင်းဝင်း )
ဒါရိုက်တာ

( ဦး ဒေါ်ဘီကျော်ဝင်း (ခ) ဦး ကျော် ကိုကိုချိန် )
ဒါရိုက်တာ

( ဦး ဒေါ်ဝင်းကျော်ဦး (ခ) ဦး ကျော် ထိုက်တယ် )
ဒါရိုက်တာ

( ဒေါ် ခိုင်ခိုင်ဝင်း )
ဒါရိုက်တာ

( ဒေါ် ကြာလဲနီ (ခ) ကျော်ကြာနီ )
ဒါရိုက်တာ

နေ့ဘက်သက်ဆိုင်(၈

ဦးစီးအရာရှိရုံး၊ [illegible]

ဆိပ်ကျင်းမြို့နယ်၊ မန္တလေးတိုင်း။

စာအမှတ် ...... ၆၆/၇/(၆) ......

နေ့စွဲ ...... ၂၂ - ၇ - ၉၈ ......

သို့/

သက်ဆိုင်ရာဌာနအကြီးအကဲ

အကြောင်းအရာ။ **ရွှေသဗ္ဗာဖက်စပ်လုပ်ကိုင်ခွင့် ထောက်ခံတင်ပြခြင်း ။**

အထက်အကြောင်းအရာနှင့်ပါတ်သက်၍ မြင်ဦး လွင်ဆွေရှိင်၊ ဆိပ်ကျင်းမြို့နယ်၊ ကဘဲ့ရပ်ကွက်နယ်မြေ၊ (၁)ဗိုင်ဘ-၈-ရပ်ခန်း အနီး ရွှေလုပ်ကွက်နှင့်ပါတ်သက်၍ အောက်ပါအတိုင်း ထောက်ခံအပ်ပါသည်။

၁။ ကြိုးဝိုင်း ဇရိယာမှလွတ်ကင်း ပါသည်။

၂။ တားမြစ်ပါသစ်ပင်များ မရှိပါ ။

သို့ဖြစ်ပါ၍ ရွှေသဗ္ဗာဖက်စပ်လုပ်ကိုင်ခွင့်လျှောက်ထားသည့် (၁)ဗိုင်-ဘ-၈ ရပ်ခန်း အနီး ရွှေလုပ်ကွက်နှင့်ပါတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်း၊ ထောက်ခံတင်ပြအပ်ပါသည်။

၂၂/၇/၉၈

(စန်းဇော်ဝင်း)
ဦးစီးအရာရှိ
မြို့နယ်သစ်တောဦးစီးဌာန
ဆိပ်ကျင်းမြို့

မိတ္တူကို / -

ရုံးလက်ခံတွဲ ။

